၂၁၆
ပုံစံ(မနသ-၂)
၅-၁-၂၀၀၉

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-......၆၉၈...../ ၂၀၀၉ ။ ၂၀၀၉ ခုနှစ်၊ ဇန်နဝါရီ လ ၅ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ......ဦးလင်းကြည်......

(ခ) အဘအမည် ......ဦးမြင့်ဟန်......

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ......၁၂/ဗတထ (နိုင်) ၀၃၁၃၃၇......

(ဃ) နေရပ်လိပ်စာ ......အမှတ်(၁၉)၊ ဗိုလ်မြတ်ထွန်းလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။......

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ......ကြယ်ညီနောင်စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co., Ltd.)......

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ......ဆောက်လုပ်ရေးလုပ်ငန်းသုံး၊ အပေါ့စားယန္တရားများထုတ်လုပ်ခြင်းလုပ်ငန်း......

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ......မြေကွက်အမှတ်(၁၂၂)၊ ဆိပ်ကမ်းစက်မှုဇုန် (၂)၊ ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ရန်ကုန်တိုင်း။......

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ......၉၅. ၅၅ သန်း (အမေရိကန်ဒေါ်လာ ၀. ၀၉ သန်းအပါအဝင်) (ကျပ်ကိုးဆယ့်ငါးသန်း၊ငါးသိန်း၊ ငါးသောင်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
အစိုးရအဖွဲ့

စာအမှတ်၊ ၄၅ / ၁၄၈ /အဖရ ( ၄၃/၂၀၀၈ )။
ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ ဒီဇင်ဘာလ ၂၄ ရက်။

အ မှာ စာ

အကြောင်းအရာ။ ကြယ်ညီနောင် စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co., Ltd.) မှ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ။

၁။ ၂၀၀၈ ခုနှစ် ၊ ဒီဇင်ဘာလ ၁၈ရက် (ကြာသပတေး) နေ့တွင် ကျင်းပပြုလုပ် သော ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ( ၄၃/၂၀၀၈ ) မှတ်တမ်း ကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာအရေးယူ ဆောင်ရွက်ချက်ကိုလည်း ပြန်လည် အစီရင်ခံ တင်ပြရန် ဖြစ်ပါသည်။

အတွင်းရေးမှူး( ကိုယ်စား )
(အောင်လွင်ဦး)

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

၄၅။ ကြယ်ညီနောင် စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co., Ltd.) မှ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စား ယန္တရားများထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၈ ခုနှစ်၊ ဒီဇင်ဘာလ ၁၂ ရက်နေ့စွဲပါ အမှာစာအမှတ်၊ရက- ၆(ခ)/ မ-၁၄၅၂/၂၀၀၈ (၁၈၈၁၇)။

ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co., Ltd.) မှ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်သဘောတူကြောင်း ဆုံးဖြတ်ကြသည်။ ဆောင်ရွက်ရန်၊ ရင်းနှီးမြှုပ်နှံမှု။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(ခ)/မ-၁၄၅၂/၂၀၀၈( ၁၈၈၁၇ )
ရက်စွဲ ၊ ၂၀၀၈ ခုနှစ်၊ ဒီဇင်ဘာ လ ၁၂ ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ သို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ ။ ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Twin Star Manufacturing Co., Ltd.)မှ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co., Ltd.) သည် အုပ်ချုပ်မှု ဒါရိုက်တာ ဦးလင်းကြည် အမည်ဖြင့် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန မှ အသုံးပြုခွင့် ရရှိထားသော မြေကွက်အမှတ် (၁၂၂)၊ ဆိပ်ကမ်းစက်မှုဇုန်(၂)၊ ဒဂုံမြို့သစ် (ဆိပ်ကမ်း)မြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ(၂.၁၅၁)ဧက (၈၇၀၄.၈၂ စတုရန်းမီတာ) ကို ငှားရမ်း၍ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စားယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်အား (၂၆-၁၁-၂၀၀၈) နေ့တွင် ကျင်းပပြုလုပ် သည့် ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၃၉/၂၀၀၈) အစည်းအဝေး သို့ တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် - နောက်ဆက်တွဲ (က)

(က) အဆိုပြုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်။

(ခ) အဆိုပါ ကုမ္ပဏီ မှ ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စား ယန္တရားများ ကို သတ်မှတ်လျာထားသည့် အတိုင်း ထုတ်လုပ်၍ ပြည်ပသို့ တင်ပို့မည်ဖြစ်ကြောင်း ကို စာချုပ်တွင် တိတိကျကျ ဖော်ပြချုပ်ဆိုစေရန်။

၂။ အထက်ပါ အစည်းအဝေး လမ်းညွှန်ချက်နှင့် အညီ စာချုပ်ပါ အချက်များ အတိုင်း လိုက်နာ ဆောင်ရွက်မည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ ဝန်ခံ ကတိပြု တင်ပြလာပါသည်။

၃။ ယင်းလုပ်ငန်း နှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာနများသို့ သဘောထား မှတ်ချက် တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားထားပါသည် -

(က) အမှတ်(၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန မှ လျှပ်စစ် ဓါတ်အား လိုအပ်ချက် (၅၀၀) ကီလိုဝပ် ကို ဒဂုံဆိပ်ကမ်း ( ၃၃ / ၁၁ ) ကေဗွီ၊ ၁၀ အမ်ဗွီအေ ထရန်စဖော်မာမှ (၁၁)ကေဗွီ ဓါတ်အားလိုင်း ဖြင့် ဓါတ်အား ဆက်သွယ်ပေးနိုင် ပါကြောင်း၊ နောက်ဆက်တွဲ (ခ)



*Diamond Star .m

(ခ) အမှတ်(၂)စက်မှုဝန်ကြီးဌာန မှ ကုန်ကြမ်း လိုအပ်ချက် နှင့် ကုန်ချော ထုတ်လုပ်မှု အချိုးအစားညီညွတ်မှု ရှိကြောင်း၊ စက်ပစ္စည်းဈေးနှုန်း နှင့် ကုန်ချောဈေးနှုန်းများ ဆီလျော်မှု ရှိကြောင်း နှင့် နှစ်စဉ် ထုတ်လုပ်မှု နှင့် စက်အင်အား အချိုးအစား ညီမျှမှု ရှိကြောင်း၊ နောက်ဆက်တွဲ (ဂ)

(ဂ) ဆောက်လုပ်ရေးဝန်ကြီးဌာနမှ အဆိုပြု မြေကွက်ပေါ်တွင် စက်ရုံ အဆောက်အဦ ဆောက်လုပ်ထားခြင်း မရှိကြောင်း၊ လုပ်ငန်း ဆောင်ရွက်နေခြင်း မရှိကြောင်း နှင့် လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သင့်လျော်ပါကြောင်း၊ နောက်ဆက်တွဲ (ဃ)

၄။ လုပ်ငန်း အဆိုပြုချက်အား နောက်ဆက်တွဲ (င) ဖြင့် တင်ပြအပ်ပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၀၉)သန်း အပါအဝင် စုစုပေါင်း ကျပ် (၉၅.၅၅) သန်း ဖြစ်ပါသည်။ လုပ်ငန်း အတွက် အသုံးပြုရန် လိုအပ်သော စက်ပစ္စည်းများကို စင်ကာပူနိုင်ငံ ရှိ Land & Marine Marketing Pte Ltd. ထံမှဝယ်ယူမည်ဖြစ်ကြောင်း MOU နှင့် Invoice များ တင်ပြထား ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်မည် ဖြစ်၍ လုပ်ငန်းအတွက်အသုံးပြုရန်လိုအပ်သော ကုန်ကြမ်းပစ္စည်း နှစ်မျိုးဖြစ်သည့် 5.0 HP Engineနှင့် 13.5 HP Engine ကို စင်ကာပူနိုင်ငံရှိ Land & Marine Marketing Pte., Ltd မှ ဝယ်ယူမည်ဖြစ်ပြီး၊ ပြည်တွင်းမှ ဝယ်ယူနိုင်သည့် ကုန်ကြမ်းပစ္စည်းများကို ပြည်တွင်းမှ ဝယ်ယူမည် ဖြစ်ပါသည်။

၆။ လုပ်ငန်းမှ ထုတ်လုပ်သည့်ပစ္စည်းများကို ပြည်တွင်းတွင်(၁၀)ရာခိုင်နှုန်းနှင့် ပြည်ပသို့ (၉၀)ရာခိုင်နှုန်း တင်ပို့မည် ဖြစ်ပါသည်။ ပြည်ပဈေးကွက် အထောက်အထားအဖြစ် မိတ်ဖက်ကုမ္ပဏီ ဖြစ်သော စင်ကာပူနိုင်ငံရှိ Land & Marine Marketing Pte ., Ltd နှင့် ချုပ်ဆိုထားသော Purchase Agreement နှင့် Sale Contract၊ မလေးရှားနိုင်ငံရှိ Conweld Machinery Sdn Bhd. မှ ကုန်ချောပစ္စည်းများ ဝယ်ယူရန် ကမ်းလှမ်းလာသည့် အထောက်အထား တို့ ကို တင်ပြထားပါသည်။ လုပ်ငန်းမှ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုမှာ အောက်ပါ အတိုင်းဖြစ်ပါသည်။

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ခုရေ) |
|---|---|---|
| ၁။ | မြေသိပ်ရန်ရိုက်စက် | ၅၁၁၂ |
| ၂။ | ဘိလပ်မြေ/မဆလာမျက်နှာပြင်ချောစက် | ၆၄၈ |
| ၃။ | ကွန်ကရစ်ဖြတ်စက် | ၇၂၀ |

၇။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှပုံမှန်နှစ်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | အမေရိကန်ဒေါ်လာ | ၀.၀၆ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | အမေရိကန်ဒေါ်လာ | ၀.၁၁ သန်း |
| | | ကျပ် | ၁၃.၉၁ သန်း |

၈။ ယင်းလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် ပြည်တွင်းလုပ်သား (၁၀၀)ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါ သည်။

၉။ အဆိုပြု တင်ပြစဉ်က ငွေကြေးဆိုင်ရာ အထောက်အထား အဖြစ် ကမကထပြုသူ ဦးလင်းကြည် အမည်ဖြင့် သမဝါယမဘဏ်လီမိတက် ရှိ ကျပ်ငွေလက်ကျန်နှင့် မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်ရှိ နိုင်ငံခြား ငွေလက်ကျန်များ တင်ပြထားရာ လုပ်ငန်း ဆောင်ရွက်နိုင်ကြောင်း စိစစ်တွေ့ရှိရပါ သည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှသတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းချက်များကို လိုက်နာမည် ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများပြုလုပ်ထားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။

၁၂။ ဆုံးဖြတ်ရန်အချက်

ကြယ်ညီနောင် စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် ( Twin Star Manufacturing Co., Ltd ) မှ ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး ၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

လျှို့ဝှက်

နောက်ဆက်တွဲ(က)

၄

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၈ခုနှစ်၊နိုဝင်ဘာလ(၂၆)ရက်နေ့တွင်ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၃၉/၂၀၀၈) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၂၀-ဃ | ၁၂၂၂ | (က) ကြယ်ညီနောင်စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co., Ltd.)မှ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စားယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်။<br>(ခ) အဆိုပါကုမ္ပဏီမှ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စား ယန္တရားများကို သတ်မှတ်လျာထားသည့် အတိုင်း ထုတ်လုပ်၍ ပြည်ပသို့ တင်ပို့မည် ဖြစ်ကြောင်း ကို စာချုပ်တွင်တိတိကျကျ ဖော်ပြချုပ်ဆိုစေရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ
စာအမှတ်
ရက်စွဲ ၂-၁၂-၂၀၀၈

wwm /sk 2-12-2008

နောက်ဆက်တွဲ(ခ)

လျှို့ဝှက်

၅

မြန်မာနိုင်ငံတော်အစိုးရ

အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ဝန်ကြီးရုံး

နေပြည်တော်

စာအမှတ်၊ ၅ / MIC / ( ၂၈၄ / ၂၀၀၇)

ရက်စွဲ၊ ၂၀၀၇ ခုနှစ်၊ ဩဂုတ်လ ( ၂၄ ) ရက်။

အကြောင်းအရာ ။ ။ <u>သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ။</u>

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀-၇-၂၀၀၇) ရက်စွဲပါ စာအမှတ်၊ ရက - ၆ (က) / မ - ၉၈၀ / ၂၀၀၇ (၃၃၅၃)။

၁။ ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ ဆိပ်ကမ်းစက်မှုဇုန် အပိုင်း(၂)၊ မြေကွက်အမှတ်(၁၂၂)ရှိ မြေ(၂.၁၅၁)ဧကကို တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ငှားရမ်း၍ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် လျှပ်စစ်ဓာတ်အား(၁)နှစ် (၅၀၀)ကီလိုဝပ် လိုအပ်ချက်နှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် တောင်းခံမှုအပေါ် အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်။

၂။ တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စားယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်းမှ သုံးစွဲလိုသည့် လျှပ်စစ်ဓာတ်အား (၅၀၀)ကီလိုဝပ်ကို ဒဂုံဆိပ်ကမ်း (၃၃/၁၁)ကေဗွီ၊ ၁၀ အမ်ဗွီအေ ထရန်စဖော်မာမှ (၁၁)ကေဗွီ ဓာတ်အားလိုင်းဖြင့် ဓာတ်အားဆက်သွယ်ပေးနိုင်ပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၄/၈/၀၇

ဝန်ကြီး ( ကိုယ်စား )

( စောဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ် )

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

မိတ္တူ - ဥက္ကဋ္ဌ

ရန်ကုန်မြို့တော်လျှပ်စစ်ဓာတ်အားပေးရေးအဖွဲ့

<u>လျှို့ဝှက်</u>

နောက်ဆက်တွဲ(ဂ)

လျှို့ဝှက်

၆

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် (၂) စက်မှုဝန်ကြီးဌာန

စာအမှတ် ။ ၇-၂၈၂(၃)၂၀၀၈(၉၃၄)
ရက်စွဲ ။ ၂၀၀၈ ခုနှစ်၊ ဇူလိုင်လ ( ၂ ) ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ကြယ်ညီနောင် စက်မှုထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြသည့် ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စားယန္တရားထုတ်လုပ်ခြင်းလုပ်ငန်း စီမံကိန်း အဆိုပြုချက်အပေါ် သဘောထားမှတ်ချက်တောင်းခံသည့်ကိစ္စ

ရည်ညွှန်းချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀.၇.၂၀၀၇) ရက်စွဲပါ စာအမှတ်၊ ၇က-၆(က)/မ-၉၈၀/၂၀၀၇

(၂) အမှတ် (၂) စက်မှုဝန်ကြီးဌာန၏ (၂၆.၇.၂၀၀၇) ရက်စွဲပါ စာအမှတ်၊ ၇-၂၈၂(၁)၂၀၀၇(၇၆၂)

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂.၁၁.၂၀၀၇) ရက်စွဲပါ စာအမှတ်၊ ၇က-၆(က)/မ-၉၈၀/၂၀၀၇(၈၉၆၄-က)

(၄) အမှတ် (၂) စက်မှုဝန်ကြီးဌာန၏ (၂၈.၁.၂၀၀၈) ရက်စွဲပါ စာအမှတ်၊ ၇-၂၈၂(၃)၂၀၀၈(၁၀၅)

၁။ ကြယ်ညီနောင်စက်မှုထုတ်လုပ်မှုကုမ္ပဏီလီမိတက် (ယခင်အမည် - တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်) မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြသည့် ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စားယန္တရားများထုတ်လုပ်ခြင်း လုပ်ငန်းစီမံကိန်း အဆိုပြုချက်နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်း (၁) ပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာသဖြင့် အမှတ် (၂) စက်မှုဝန်ကြီးဌာနမှ ရည်ညွှန်း (၂) ပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားခဲ့ပြီး ဖြစ်ပါသည်။

၂။ ယင်းကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်း (၃) ပါစာဖြင့် ကြယ်ညီနောင်စက်မှုထုတ်လုပ်မှုကုမ္ပဏီလီမိတက်၏ ရှင်းလင်းတင်ပြချက်ကို ပူးတွဲလျက် သဘောထားမှတ်ချက် ထပ်မံတောင်းခံလာသည့်ကိစ္စအပေါ်တွင်လည်း ရည်ညွှန်း (၄) ပါစာဖြင့် သဘောထားမှတ်ချက် ထပ်မံပြန်ကြားပေးခဲ့ပါသည်။

လျှို့ဝှက်

၃။ ဆက်လက်၍လည်း ရည်ညွှန်း (၄) ပါစာတွင် ထပ်မံပေးပို့ရေး ညှိနှိုင်းပေးပါရန် ဖော်ပြခဲ့သည့် -

(က) ပြည်တွင်း/ပြည်ပမှ ဝယ်ယူတပ်ဆင်မည့် စက်အစိတ်အပိုင်းများ၊ ကိုယ်တိုင်ထုတ်လုပ်မည့် ပစ္စည်းများ ခွဲခြားချက်ကို (၂၈.၂.၂၀၀၈) ရက်နေ့တွင်လည်းကောင်း၊

(ခ) စက်ပစ္စည်းဆိုင်ရာအချက်အလက် (Specification) များ၊ Pamphlet များကို (၂၀.၆.၂၀၀၈) ရက်နေ့တွင်လည်းကောင်း လက်ခံရရှိခဲ့ပါသည်။

၄။ စက်ပစ္စည်းများဆိုင်ရာ အချက်အလက်များပေးပို့ရာတွင် "ပြည်ပမှ ဝယ်ယူအသုံးပြုမည့် လုပ်ငန်းသုံးစက်ပစ္စည်းများ စာရင်းအသစ် ပြန်လည်တင်ပြခြင်း (ပူးတွဲ -က)" ကို လက်ခံရရှိခဲ့ပြီး အဆိုပါစက်ပစ္စည်းစာရင်းတွင် မူလစက်စာရင်းပါ စက်ပစ္စည်း (၁၃) မျိုး၊ စက်လုံးရေ (၁၉) လုံးအစား စက်ပစ္စည်း (၁၀) မျိုး၊ စက်လုံးရေ (၁၆) လုံးကိုသာ တင်သွင်းမည်ဟု ဖော်ပြပါရှိပြီး စက်ပစ္စည်းများအားလုံး၏တန်ဖိုးမှာ အမေရိကန်ဒေါ်လာ (၆၀,၇၀၀) ဖြစ်သဖြင့် မူလတန်ဖိုးအတိုင်း ပြောင်းလဲခြင်း မရှိကြောင်း တွေ့ရှိရပါသည်။

၅။ အထက်ပါ ထပ်မံရရှိခဲ့သော ပစ္စည်းစာရင်းများ၊ စက်စာရင်းများကို စိစစ်လျက် အမှတ် (၂) စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကို အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည် -

(က) <u>ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုး ညီညွတ်မှု ရှိ/ မရှိ</u>

- သင့်တင့်ညီညွတ်မှု ရှိပါသည်။

(ခ) <u>စက်ပစ္စည်းဈေးနှုန်းများနှင့် ကုန်ချောဈေးနှုန်းများ ဆီလျော်မှု ရှိ/ မရှိ</u>

- ပြည်ပမှတင်သွင်းမည့် လုပ်ငန်းသုံးစက်ပစ္စည်းများစာရင်း အသစ်ပြန်လည်တင်ပြချက်အရ တင်သွင်းမည့်စက်ပစ္စည်းများနှင့် ကုန်ချောဈေးနှုန်းများ ဆီလျော်မှု ရှိပါသည်။

(ဂ) <u>နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အားအချိုး ညီမျှမှု ရှိ/ မရှိ</u>

- ပြည်ပမှ တင်သွင်းမည့် လုပ်ငန်းသုံးစက်ပစ္စည်းများစာရင်းအသစ် ပြန်လည်တင်ပြချက်နှင့် ပြည်တွင်း/ပြည်ပ ဝယ်ယူတပ်ဆင်မည့် ပစ္စည်းများ၊ ကိုယ်တိုင်ထုတ်လုပ်မည့် စက်အစိတ်အပိုင်းများ ခွဲခြားဖော်ပြချက်အရ နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အားအချိုး ညီမျှမှုရှိပါသည်။

ဒုတိယဝန်ကြီး
(ဒုတိယဗိုလ်မှူးကြီးခင်မောင်ကျော်)

မိတ္တူကို - ၁။ မြန်မာ့စက်မှုလုပ်ငန်းများစီမံကိန်းညွှန်ကြားမှုဦးစီးဌာန
၂။ ရုံးလက်ခံ

နောက်ဆက်တွဲ(ဃ)

လျှို့ဝှက်

၈

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်၊ ၅၁ / ခွဲ - ၃ / ၂၀၀၇ (စီ ၆၉၁၃)
ရက် စွဲ၊ ၂၀၀၇ ခုနှစ် ဒီဇင်ဘာလ ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၂၀၀၇ခုနှစ်ဇူလိုင်လ(၁၀)ရက်နေ့စွဲပါ စာအမှတ်၊ ရက-၆ (က) / မ-၉၈၀ / ၂၀၀၇ (၃၃၅၄)

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ ဒဂုံမြို့သစ်(ဆိပ်ကမ်း) မြို့နယ်၊ ဒဂုံဆိပ်ကမ်းစက်မှုဇုန်အပိုင်း (၂) မြေကွက်အမှတ် - ၁၂၂ ရှိ မြေ (၂.၁၅၁)ဧကကို တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ငှားရမ်း၍ ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စားယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် အဆိုပြု တင်ပြခြင်းနှင့်စပ်လျဉ်း၍ အဆိုပါမြေကွက်အား စိစစ်ရာ (၂.၁၅၁) ဧက (၂၁၈'x ၄၅၀'/၄၁၈') အကျယ်အဝန်းရှိ မြေကွက်လွတ်ဖြစ်ပြီး မြေပေါ်တွင် စက်ရုံအဆောက်အဦးဆောက်လုပ်ထားခြင်း မရှိကြောင်းနှင့် လုပ်ငန်းဆောင်ရွက်နေခြင်းမရှိကြောင်းတွေ့ရှိရပါသည် ။

၂။ သို့ပါ၍ အဆိုပြုမြေကွက်ပေါ်တွင် ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စားယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သင့်လျော်သည်ဟု ယူဆပါကြောင်း တင်ပြအပ်ပါသည် ။

ဝန်ကြီး(ကိုယ်စား)
(ဗိုလ်မှူးချုပ်မြင့်သိန်း၊ ဒုတိယဝန်ကြီး)

မိတ္တူကို
- ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ။

လျှို့ဝှက်

အေး/

လျှို့ဝှက်

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၆(က)/မ-၉၈၀ / ၂၀၀၈ ( ၁၈၁၁၂ )
ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ နိုဝင်ဘာ လ ၂၁ ရက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ ။ကြယ်ညီနောင် စက်မှုထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Twin Star Manufacturing Co., Ltd.) မှ ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် ပြည်ပသို့ တင်ပို့နိုင်မှု ခိုင်လုံသော အထောက်အထားများ နှင့်အတူ ပြန်လည် တင်ပြ လာခြင်း ကိစ္စ။

၁။ ကြယ်ညီနောင် စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co., Ltd.) မှ မြေကွက်အမှတ် (၁၂၂)၊ ဆိပ်ကမ်းစက်မှုဇုန် (၂)၊ ဒဂုံမြို့သစ် (ဆိပ်ကမ်း) မြို့နယ်၊ ရန်ကုန် တိုင်းရှိမြေ (၂.၁၅၁)ဧကကို ငှားရမ်း၍ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့် အဆိုပြုချက်အား (၂၇-၈-၂၀၀၈)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏(၂၈/၂၀၀၈) အစည်းအဝေး၌ တင်ပြခဲ့ရာ"ပြန်လည်စိစစ်ရန်" လမ်းညွှန် ခဲ့ပါသည်။

၂။ အထက်ပါ ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေး လမ်းညွှန်ချက်နှင့် အညီ အဆိုပြု လုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေကို ပြန်လည်စိစစ်ခဲ့ပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၀၉)သန်း အပါအဝင် စုစုပေါင်း ကျပ် (၉၅.၅၅) သန်း ဖြစ်ပါ သည်။ လုပ်ငန်းသုံး စက်ပစ္စည်းများနှင့် နှစ်စဉ်လိုအပ်သော ကုန်ကြမ်းပစ္စည်း(၂)မျိုး (5.0 HP Engine နှင့် 13.5 HP Engine) တို့ကို စင်ကာပူနိုင်ငံရှိ Land & Marine Marketing Pte, Ltd. မှ ဝယ်ယူမည်ဖြစ်ပြီး ပြည်တွင်းမှ ဝယ်ယူနိုင်သည့် ကုန်ကြမ်းပစ္စည်းများကို ပြည်တွင်းမှ ဝယ်ယူမည် ဖြစ်ပါသည်။

၃။ အဆိုပြုလုပ်ငန်းမှ မြေသိပ်ရန် ရိုက်စက်၊ ဘိလပ်မြေ မဆလာ မျက်နှာပြင် ချောစက်နှင့် ကွန်ကရစ် ဖြတ်စက်တို့ကို ထုတ်လုပ်ပြီး ပြည်တွင်း (၁၀) ရာခိုင်နှုန်းနှင့် ပြည်ပ (၉၀)ရာခိုင်နှုန်း ရောင်းချ မည်ဖြစ်ပါသည်။

လျှို့ဝှက်

၄။ ကြယ်ညီနောင် စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co., Ltd.) မှ အုပ်ချုပ်မှု ဒါရိုက်တာ ဦးလင်းကြည်သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ရရှိရန် ကော်မရှင်အဖွဲ့နှင့် လာရောက် တွေ့ဆုံ ရှင်းလင်းတင်ပြ ခဲ့ပါသည်။ ကုန်သွယ်မှုမူဝါဒကောင်စီ ၏ (၂၈/၂၀၀၈) အစည်းအဝေးဆုံး ဖြတ်ချက်အရ ဈေးကွက်ခိုင်မာကြောင်း အထောက်အထားများ အဖြစ် မိတ်ဖက်ကုမ္ပဏီဖြစ်သော စင်ကာပူနိုင်ငံရှိ Land & Marine Marketing Pte, Ltd. နှင့်ချုပ်ဆိုထားသော Purchase Agreement နှင့် Sale Contract တို့ကို စင်ကာပူနိုင်ငံတွင် နိုတြီပြုလုပ် တင်ပြလာပါသည်။ ကြယ်ညီနောင် စက်မှုထုတ်လုပ်မှုကုမ္ပဏီမှ ထုတ်လုပ်မည့် အပေါ့စား ယန္တရား ကုန်ချော များကို နှစ်စဉ် တိုးမြှင့်ဝယ်ယူ မည်ဖြစ်ကြောင်း Buyer ၏ Undertaking ကိုလည်း ထပ်မံတင်ပြထားပါသည်။ ထို့ပြင် မလေးရှား နိုင်ငံရှိ Conweld Machinery Sdn Bhd. မှ လည်း ကုန်ချောပစ္စည်းများ ဝယ်ယူရန် ကမ်းလှမ်း လာသည့် အထောက်အထားကိုလည်း ဖြည့်စွက်တင်ပြလာပါသည်။

၅။ ယင်းလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထားများ ပြန်ကြားထားပါသည်။

- အမှတ်(၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ လျှပ်စစ်ဓါတ်အား လိုအပ်ချက် (၅၀၀) ကီလိုဝပ်ကို ဒဂုံဆိပ်ကမ်း(၃၃/၁၁)ကေဗွီ၊ ၁၀ အမ်ဗွီအေထရန်စဖော်မာမှ (၁၁)ကေဗွီ ဓါတ်အားလိုင်းဖြင့် ဓါတ်အား ဆက်သွယ်ပေးနိုင်ပါကြောင်း၊
- အမှတ်(၂)စက်မှုဝန်ကြီးဌာနမှကုန်ကြမ်းလိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိကြောင်း၊ စက်ပစ္စည်းဈေးနှုန်းနှင့် ကုန်ချောဈေးနှုန်းများ ဆီလျော်မှု ရှိကြောင်း နှင့် နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား အချိုးအစား ညီမျှမှု ရှိကြောင်း၊
- ဆောက်လုပ်ရေးဝန်ကြီးဌာနမှ အဆိုပြု မြေကွက်ပေါ်တွင် စက်ရုံအဆောက်အဦ ဆောက် လုပ်ထားခြင်းမရှိကြောင်း၊ လုပ်ငန်း ဆောင်ရွက်နေခြင်း မရှိကြောင်းနှင့် လုပ်ငန်း ဆောင်ရွက် ခွင့်ပြုရန် သင့်လျော်ပါကြောင်း ပြန်ကြားထားပါသည်။

၆။ ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၂၈/၂၀၀၈) အစည်းအဝေးလမ်းညွှန်ချက်နှင့်အညီ အဆိုပြု လုပ်ငန်း၏ Export ဈေးကွက်ခိုင်မာကြောင်း၊ စင်ကာပူနိုင်ငံမှ Buyer ၏ Undertaking နှင့် မလေးရှားနိုင်ငံမှ ကုန်အမှာစာတို့ကို တင်ပြထားခြင်း၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သင့်လျော်ပါကြောင်း သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ သဘောထားများ ပြန်ကြားထားခြင်းတို့ကို စိစစ် ပြီးဖြစ်ပါသည်။ လုပ်ငန်းစီမံကိန်း၏စီးပွားရေးဆိုင်ရာ အဓိကအချက်များကို ပူးတွဲ တင်ပြအပ်ပါသည်။

၇။ အထက်ပါ ပြန်လည်စိစစ်ချက်များကို (၁၃-၁၁-၂၀၀၈)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၅/၂၀၀၈) အစည်းအဝေး၌ တင်ပြခဲ့ရာ ကုန်သွယ်မှုမူဝါဒကော်မတီသို့တင်ပြလမ်းညွှန်မှုခံယူရန် ဆုံးဖြတ်ခဲ့ပါသည်။

၈။ <u>ဆုံးဖြတ်ရန် အချက်</u>

ကြယ်ညီနောင်စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက်(Twin Star Manufacturing Co., Ltd.) မှ ဆောက်လုပ်ရေး လုပ်ငန်းသုံးအပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

၉။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ထောက်ခံချက်</u>
ကုန်သွယ်မှုမူဝါဒကော်မတီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( ဗိုလ်မှူးချုပ်မောင်မောင်သိမ်း )
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး၊မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊

<u>ကုန်သွယ်မှုမူဝါဒကော်မတီ</u>

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များအမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co.,Ltd ) | ၁။ ဦးလင်းကြည် (အုပ်ချုပ်မှုဒါရိုက်တာ)<br>၂။ ဦးအောင်ကြည် (ဒါရိုက်တာ)<br>၃။ ဒေါ်ဥမ္မာသွင် (ဒါရိုက်တာ) | အမှတ်(၁၃၃)၊ (၄၆) လမ်း၊ ဗိုလ်တထောင်မြို့နယ်၊ရန်ကုန်မြို့။<br>အမှတ်(၁၃၃)၊ (၄၆) လမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။<br>အမှတ်(၁၉၉)၊ဗိုလ်မြတ်ထွန်းလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ |

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီတယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - ၉၅၁- ၂၉၆၀၁၆၊ ၂၉၇၇၅၀ / ၉၅၁-၂၉၀၉၃၉ |
| ၂။ | ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ | - အမှတ်(၁၉၉)၊အခန်း(၃)၊ မြေညီထပ်၊ ဗိုလ်မြတ်ထွန်းလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| ၃။ | ကုမ္ပဏီ၏ဆက်သွယ်ရမည့် ပုဂ္ဂိုလ် အမည်၊ ရာထူး | - ဦးလင်းကြည် (အုပ်ချုပ်မှု ဒါရိုက်တာ) |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့် လုပ်ငန်းများ | - ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်နေ့စွဲ | - ၄၁၄/၂၀၀၈-၂၀၀၉ (ယာယီ) (၉-၇-၂၀၀၈) |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့် နေ့စွဲ | - (၂၀-၁ -၂၀၀၉) |
| ၇။ | ဘဏ်အမည် နှင့် ဘဏ်စာရင်းအမှတ် | - သမဝါယမဘဏ်လီမိတက်-0132023674<br>မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်-91645 |

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၈ခုနှစ်၊ ဩဂုတ်လ(၂၇)ရက်နေ့တွင်ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒ ကောင်စီ အစည်းအဝေးအမှတ်စဉ် (၂၈/၂၀၀၈) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၉-၉ | ၅၆၃ | ကြယ်ညီနောင် စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co., Ltd.)မှ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စကို ပြန်လည်စိစစ်ရန်ဖြစ်ကြောင်း ဆုံးဖြတ်ပါသည်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ |

ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ
စာအမှတ်
ရက်စွဲ ၂၉-၀၈



kko /sk 1-9-2008

## စီးပွားရေးဆိုင်ရာ အဓိကအချက်များ

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co., Ltd ) | |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးလင်းကြည် (အဘ- ဦးမြင့်ဟန်) | |
| ၃။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၉၅.၅၅ သန်း | (US $ ၀.၀၉ သန်းအပါအဝင်) |
| | - ငွေပမာဏ | ၁၀.၀၀ | |
| | - အဆောက်အဦ | ၅၀.၀၀ | |
| | - စက်ပစ္စည်းကိရိယာ | ၀.၃၆ | ( US $ ၀.၀၆ သန်း ) |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်း | ၅.၀၀ | |
| | - ကုန်ကြမ်း | ၃၀.၁၉ | ( US $ ၀.၀၃ သန်း အပါအဝင်) |
| ၄။ | ထုတ်လုပ်မှု(ပုံမှန်နှစ်) | ခုရေ | |
| | - မြေသိပ်ရန်ရိုက်စက် | ၅၁၁၂ | |
| | - ဘိလပ်မြေ/ မဆလာ မျက်နှာပြင် ချောစက် | ၆၄၈ | |
| | - ကွန်ကရစ် ဖြတ်စက် | ၇၂၀ | |
| ၅။ | ရောင်းချမည့်နည်းစနစ် | | |
| | - ပြည်တွင်း | ၁၀ % | |
| | - ပြည်ပ | ၉၀ % | |
| ၆။ | ရောင်းဈေးနှုန်း(ပုံမှန်နှစ်) | တစ်ယူနစ် ပြည်ပရောင်းဈေး (US$) | တစ်ယူနစ်ပြည်တွင်းရောင်းဈေး (ကျပ်ထောင်ပေါင်း) |
| | - မြေသိပ်ရန်ရိုက်စက် | ၁၁၅ | ၁၄၄ |
| | - ဘိလပ်မြေ/ မဆလာ မျက်နှာပြင် ချောစက် | ၄၀၈ | ၄၄၄ |
| | - ကွန်ကရစ် ဖြတ်စက် | ၄၄၄ | ၄၈၀ |

| | | |
|---|---|---|
| ၇။ | ဝင်ငွေ(ပုံမှန်နှစ်) | |
| | - နိုင်ငံခြားငွေဖြင့် | US$ ၁.၀၅ သန်း |
| | - ကျပ်ငွေဖြင့် | ကျပ် ၁၃၉.၁၀ သန်း |
| ၈။ | အသားတင်အမြတ်(ပုံမှန်နှစ်) | US$ ၀.၃၅ သန်း |
| ၉။ | နိုင်ငံတော်မှပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ် | |
| | - ဝင်ငွေခွန် | US$ ၀.၀၆ သန်း |
| | - ကုန်သွယ်လုပ်ငန်းခွန်<br>(ပြည်ပရောင်းရငွေအပေါ် ၁၀%)<br>(ပြည်တွင်းရောင်းရငွေ အပေါ် ၁၀%) | <br>US$ ၀.၁၁ သန်း<br>ကျပ် ၁၃.၉၁ သန်း |
| ၁၀။ | လုပ်သားအင်အား(ပြည်တွင်း) | - ၁၀၀ ဦး |

# Power Trowel



## Specification

| | | |
|---|---|---|
| Path | - 36" | (90 cm) |
| Power Source | - 5Hp Robin Engine | |
| Float Blade Size | - 10"x 4" | (25 x 36 cm) |
| Finish Trowel Size | - 6"x 14" | (25 x 36 cm) |
| Combination Blade Size | - 8"x 14" | (25 x 36 cm) |
| Pan Float Size | - 38½" | (25 x 36 cm) |
| Operation Weight | - Up to 165 lb (75 kg) | |

# Concrete Cutter

*** Powerful compaction.**

*** High degree of manoeuvrability.**

*** Adaptable to various kinds of soils.**

*** Easy operation and low maintenance.**




## Specification

| | | |
|---|---|---|
| Model | | FCC-3 |
| Weight | | 125 Kgs |
| Max Cutting Depth | | 140 mm |
| Water Tank Capacity | | 30 Litres |
| BLADE | RPM | 2,700 |
| | Size | 12" - 16" |
| | Arbor Size | 27 mm |
| ENGINE | Model | EY-40D (4 stroke air-cooled) |
| | Max Output | 10 HP / 3,600 RPM |
| | Starting System | Recall |
| | Fuel Tank Capacity | Approx 6.0 Liters |

လျှို့ဝှက်
၁၀

# Plate Compactor

* Powerful compaction.
* High degree of manoeuvrability.
* Adaptable to various kinds of soils.
* Easy operation and low maintenance.




## Specification

| Model | | TS-80 |
|---|---|---|
| Static Weight | Kgs | 80 |
| | Lbs | 176 |
| Plate Size (W x L) | mm | 380 x 520 |
| | inch | 15" x 20½" |
| Vibration Frequency | V.P.M (Max.) | 6,000 |
| Travelling Speed | m.min | 20-25 |
| | Ft./Min. | 66-82 |
| Compacting Area (Max.) | $M^2$/h | 500 |
| | $Ft^2$/h | 5.380 |
| Engine Model<br>Gas Air-cooled<br>With Recoil Starter<br>Cycloen Air-cleaner | | Robin EY20DU<br>4-cycle<br>3-5-HP |

# TWIN STAR COMPANY LIMITED

1-၃၄၀၆ / ၁၁ Your Ref : Our Ref : Date :

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊
နေပြည်တော်။

နေ့စွဲ။ ။၂၀၀၈ခုနှစ်၊ အောက်တိုဘာလ(၃၁)ရက်။

အကြောင်းအရာ။ ။ Twin Star Manufacturing Co.,Ltd. ၏ ပြည်ပတင်ပို့နိုင်မှုခိုင်လုံသော အထောက်အထားများတင်ပြခြင်း။

ကျွန်တော်တို့၏ ကြယ်ညီနောင်စက်မှုထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Twin Star Manufacturing Co.,Ltd.)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးစက်ပစ္စည်းများ ထုတ်လုပ်ပြီး၊ ၉၀ %ကို ပြည်ပသို့တင်ပို့မည်ဖြစ်ရာ ကျွန်တော်တို့၏ မိတ်ဖက်ကုမ္ပဏီဖြစ်သော စင်္ကာပူနိုင်ငံရှိ Land & Marine Marketing Pte.Ltd သည် ချုပ်ဆိုထားသော Purchase Agreement, Sale Contract, Proforma Invoice နှင့် Undertaking များကို တင်ပြပေးပို့အပ်ပါသည်။ ထို့အပြင် မလေးရှားနိုင်ငံမှလည်း ကျွန်တော်တို့၏စက်ပစ္စည်းများဝယ်ယူရန် ကမ်းလှမ်းထားသောစာကို ပူးတွဲတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

MANAGING DIRECTOR
TWIN STAR CO.,LTD.

No.116/118(B), Ground Floor, Cherry Housing, BoMyatTun Rood, Botahtaung Township,Yangon, Myanmar.
TEL : 951- 296016, 297750, Fax : 951-290939 , e-mail :twinstar.ygnmm@mptmail.net.mm, derek@myanmar.com.mm

海陸私人有限公司
LAND & MARINE MARKETING PTE LTD
Co. Reg. No. 199308513D

108, TAGORE LANE, SINGAPORE 787544
TEL: 6459 6623 (3 LINES) FAX: 6458 1221 Email: landmar@singnet.com.sg
www.landmarine.com.sg

28 OCT 2008

Chairman
Myanmar Investment Commission
Nay Pyi Taw
Union of Myanmar.

Subject : Undertaking to purchase the products manufactured by Twin Star Manufacturing Co.,Ltd.

Our Company, Land & Marine Marketing Pte.Ltd. is a reputable company with more than 20 years proven track record of delivering quality light construction machinery and equipment at competitive price in our domestic South East Asia market and the export market in Australia, Europe, the Middle East and Africa.

Land & Marine Marketing Pte.Ltd. has business co-operation and strong relationship with Twin Star Co.,Ltd. Yangon , Myanmar, since its establishment at 1993.

We undertake to assume full responsibility for the supply of all the necessary raw materials (engines, etc.) to the Twin Star Manufacturing Co.,Ltd.

We undertake to purchase all the finished goods (Plate Compactors, Power Trowels, Concrete Cutters), manufactured by Twin Star Manufacturing Co.,Ltd. on long term basis. We wish to increase the purchase quantity annually.

If you need further information regarding this issue, please do not hesitate to contact us. We will be glad to answer all your queries.

Yours sincerely,

( Goh Cheng Kin )
Managing Director

LAND & MARINE MARKETING PTE LTD

လျှို့ဝှက်

၁၃

海陸私人有限公司

# LAND & MARINE MARKETING PTE LTD

Co. Reg. No. 199308513D

108, TAGORE LANE, SINGAPORE 787544
TEL: 6459 6623 (3 LINES) FAX: 6458 1221 Email: landmar@singnet.com.sg
www.landmarine.com.sg

## SALE CONTRACT

Ref:
Dated. 28 OCT 2008

This sales contract is made between Twin Star Manufacturing Co.,Ltd. No.199, G/F, Room (3), Bo Myat Tun Street, Botataung Township, Yangon, Myanmar (hereinafter referred to as SELLER) who have agreed to sell and LAND & MARINE MARKETING PTE LTD. No.108, Tagore Lane, Singapore 787544 ( hereinafter referred to as BUYER) who have agreed to buy the following goods on the under mentioned terms and conditions.

The seller hereby agrees to sale all the machinery and equipment with the quantities and specification set out below:-

1. Shipment to : LAND & MARINE MARKETING PTE.LTD. No.108, Tagore Lane, Singapore 787544
2. Payment : 100 % by irrevocable Letter of Credit at sight or T/T.
3. Destination : Singapore
4. Country of Origin : Yangon, Union of Myanmar.
5. Port of Loading : Yangon, Union of Myanmar.
6. Shipment : Immediate after receipt of L/C or T/T.

**List of Machinery and Equipment to be Export.**

| Sr. No. | Description | A/U | Quantity | Unit Price (USD) | Amount (USD) |
|---|---|---|---|---|---|
| 1. | Plate Compactor | Unit | 3,840 | 105 | 4,032,000 |
| 2. | Power Trowel | Unit | 480 | 340 | 163,200 |
| 3. | Concrete Cutter | Unit | 540 | 370 | 199,880 |
| | **Total** | | | USD | 4,395,000 |

လျှို့ဝှက်

Remark : The buyer shall be responsible for any custom duty if payable. This agreement is subject to the receipt of valid export license from the Ministry of Commerce, Office (3), Nay Pyi Taw, Myanmar. This agreement shall be governed and conducted in accordance with the laws of the Union Myanmar.

| | |
|---|---|
| For and on behalf of the BUYER | For the on behalf of the SELLER |
| LAND & MARINE MARKETING PTE LTD | (LIN KYI) MANAGING DIRECTOR TWIN STAR CO., LTD. |
| GOH CHENG KIN | |
| Land & Marine Marketing Pte.Ltd. | Twin Star Manufacturing Co.,Ltd. |
| No.108, Tagore Lane, | No.199, G/F, Room (3), |
| Singapore 787544 | Bo Myat Tun Street, |
| | Botataung Township, |
| | Yangon, Myanmar. |

**Witnesses by**

| (1) | | (2) | |
|---|---|---|---|
| Name | SIM TEOW LENG | Name | |
| Postion | | Position | HLA PHONE |
| ID No. | S0338427F | ID No. | DIRECTOR. |
| Addresss | 20 Maxwell Road #09-02 Singapore 069113 | Address | 12/BATAHTA(N)025293. |
| | | | 199, G/F, ROOM (3), BOMYAT TUN STREET, BOTATAUNG TSP, YANGON, MYANMAR. |

NOTARY PUBLIC
Sim Teow Leng
N2008/0233
1 Apr 2008 - 31 Mar 2009
SINGAPORE

28 OCT 2008

海陸私人有限公司
LAND & MARINE MARKETING PTE LTD
Co. Reg. No. 199308513D

108, TAGORE LANE, SINGAPORE 787544
TEL: 6459 6623 (3 LINES) FAX: 6458 1221 Email: landmar@singnet.com.sg
www.landmarine.com.sg

# PURCHASE AGREEMENT

This purchase agreement is entered into and delivered in Singapore on this 28th day October 2008, between.

**Land & Marine Marketing Pte.Ltd.** a company duly organized and existing under the Laws of Singapore, having its registered office presently located at No.108, Tagore Lane, Singapore 787544 (hereinafter referred to as **"Purchaser"** ) represented by **Mr.Goh Cheng Kin,** Managing Director of the one part.

*and*

**Twin Star Manufacturing Co.,Ltd.** a limited company duly organized and existing under the Laws of Myanmar, having its registered office presently located at No.199, G/F, Room(3), Bo Myat Tun Street, Botataung Township, Yangon, Myanmar (hereinafter to referred to as **"Supplier"** ) represented by **U Lin Kyi** , Managing Director of the other part.

WITNESS as follows:-

WHEREAS Twin Star Manufacturing Co.,Ltd. known as supplier hereto is desirous to supply the construction machinery and equipment to Land & Marine Marketing Pte.Ltd. known as Purchaser for the purpose of marketing to international market for construction. Land & Marine Marketing Pte.Ltd. is willing to purchase the said construction machinery and equipment from Twin Star Manufacturing Co.,Ltd.

Now hereby agree as follows:-

## ARTICLE-1
## TERMS AND CONDITIONS OF THE AGREEMENT

1.1 The Responsibility of the Purchaser

(1) To import and pay the value of machinery and equipment in terms of Products Sale Value from the Supplier on FOB basis for long term with an initial term of (10) years.

(2) To sell raw materials used in the production of construction machinery and equipment for long term.

(3) To arrange technical assistance and co-operation for mutual benefit in the development of construction machinery and equipment.

1.2 The Responsibility of the Supplier

(1) To supply to the Purchaser construction machinery and equipment produced by the Supplier under the terms of this Agreement on FOB basis.

(2) To receive Product Sale Value for construction machinery which are made of raw material supplied by the Purchaser.

(3) To allow for setting-off the payment of Product Sale Value to the cost of machinery and equipment.

## ARTICLE - 2
## PRICE AND PURCHASE PLAN

2.1 Product Sale Value of all imported construction machinery and equipment shall be fixed by both Parties at FOB (Yangon) on the basis of international prevailing prices in terms of US Dollars.

2.2 Both parties shall make the plan for supply and purchase for long term with an initial term of (10) years.

| Year | Plate Compactor Qty | Power Trowel Qty | Concrete Cutter Qty |
|---|---|---|---|
| 2009-2010 | 3840 | 480 | 540 |
| 2010-2011 | 3840 | 480 | 540 |
| 2011-2012 | 3840 | 480 | 540 |
| 2012-2013 | 4608 | 576 | 648 |
| 2013-2014 | 4608 | 576 | 648 |
| 2014-2015 | 4608 | 576 | 648 |
| 2015-2016 | 5529 | 691 | 778 |
| 2016-2017 | 5529 | 691 | 778 |
| 2017-2018 | 5529 | 691 | 778 |
| 2018-2019 | 5529 | 691 | 778 |

## ARTICLE - 3
## TERM

3.1 This Agreement shall become effective as of the effective date and shall continue in effect for an initial period ending on the date that is 10 years from the date on which the Supplier is ready for commercial production.

3.2 Subject to the terms and conditions of this Agreement the Supplier shall sell and deliver, and the Purchaser shall purchase and accept on and after, the effective date and for the term.

## ARTICLE - 4
## GUARANTEE

4.1 The Supplier shall guarantee to the Purchaser that he is able to, at any time, during the term, supply 90% of products of construction machinery and equipment.

4.2 The Purchaser shall guarantees to the Supplier that he is, able to at any time, during the term, purchase 90% of products of construction machinery and equipment.

## ARTICLE - 5
## ARBITRATION

5.1 In the event of any dispute over the interpretation or implementation of this Purchase Agreement, such dispute shall be settled amicably between both contracting parties through mutual discussions. Disputes that cannot be settled amicably as mentioned above shall be settled in the Union of Myanmar by arbitration, through two arbitrators appointed by and each representing one contracting party. Should the arbitrators fail to reach an agreement, the dispute shall be referred to an Umpire nominated by the Arbitrators. The arbitration proceedings shall in all respect conform to the Arbitration Act, 1944 ( Myanmar Act No. IV of 1944 ) or any subsisting statutory modifications thereof. The venue of arbitration shall be Yangon, Myanmar. The arbitration fees shall be borne equally by both parties.

## ARTICLE - 6
## GOVERNING LAW

6.1 This agreement shall be read, construed, interpreted and governed by the Laws of the Union of Myanmar.

## ARTICLE - 7
## LAW OF PERFORMANCE

7.1 Both parties shall carry out their obligations arising out of this Agreement in accordance with the Laws, Rules, Regulations, Procedures and Directives of the Union of Myanmar.

## ARTICLE - 8
## FORCE MAJEURE

8.1 If either party is temporarily rendered unable, wholly or in part, by Force Majeure to perform his duties or accept performance by the other party under this Agreement, it is agreed that the affected party shall give notice to the other party within 14 days after the occurrence of the cause relied upon giving particulars in writing of such Force Majeure. The duties of such party as are affected by such Fore Majeure shall with approval of the other party, be suspended during the continuance of the disability. Neither party shall be responsible for delay caused by Force Majeure.

8.2 The term "Force Majeure" as employed herein shall mean Act of God. Restraint of a Government, Strikes, Lockouts, Industrial Disturbances, War, Blockades, Insurrections, Riots, Epidemics, Civil Disturbances, Explosions, Fires, Floods, Earthquakes, Storms, Lightning and any other causes similar to the kind herein enumerated which are beyond the control of either party and which by the exercise of due and diligence either party is unable to overcome.

ထိုးပွက်


## ARTICLE - 9
## CONDITION PRECEDENT

9.1 This Agreement is conditional upon receipt of all necessary and requiste approval for its performance and implementation of this Agreement from relevant government authorities in the Union of Myanmar.

## ARTICLE - 10
## RENEGOTIATION OF AGREEMENT

10.1 In the event that any situation or condition arises due to circumstances not envisaged in the agreement and warrants to the Agreement, the parties shall make the necessary renegotiation.

## ARTICLE -11
## MODIFICATION

11.1 This Agreement shall not be annulled, amended or modified in respect except by the mutual consent in writing of the parties.

## ARTICLE -12
## DURATION AND EFFECTIVE DATE OF AGREEMENT

12.1 The duration of this agreement shall be for an initial period 10 years and extendable by the mutual consent in writing of the parties.

12.2 This agreement shall be effected from the date of signing of this agreement.

12.3 This agreement is read and understood by both parties therefore signed and original for each party.

TWIN STAR CO., LTD. Date..........

LAND & MARINE MARKETING PTE LTD

| | |
|---|---|
| For and on behalf of | For and on behalf of |
| Supplier | Purchaser |
| Twin Star Manufacturing Co.,Ltd. | Land & Marine Marketing Pte.Ltd. |
| U Lin Kyi | Mr.Goh Cheng Kin |
| Managing Director | Managing Director |
| Twin Star Manufacturing Co.,Ltd. | Land & Marine Marketing Pte.Ltd. |
| Yangon, Myanmar. | Singapore. |

(LIN KYI)
MANAGING DIRECTOR
TWIN STAR CO., LTD

In the Presence of

DR. HLA PHONE
DIRECTOR
TWIN STAR CO., LTD,

SIM TEOW LENG NOTARY PUBLIC SINGAPORE

SIM TEOW LENG
NOTARY PUBLIC

28 OCT 2008

NOTARY PUBLIC
Sim Teow Leng
N2008/0233
1 Apr 2008 - 31 Mar 2009
SINGAPORE

ထိုးပွက်

宏 偉 機 械 有 限 公 司

**CONWELD MACHINERY SDN. BHD.** (Co. No. 283127-M)

**KL OFFICE** : No. 1, Jalan SR 3/7, Taman Serdang Raya Sek. 3, 43300 Seri Kembangan, Selangor, Malaysia.
Tel: 03-8948 9988 (3 Lines) Fax: 03-8948 2988

**JB OFFICE** : No. 55, Jalan Mutiara Emas 5/13, Taman Mount Austin, 81100 Johor Bahru, Johor.
Tel: 07-352 3808, 07-352 6808 Fax: 07-352 9808

**S'PORE OFFICE**: Tel: 02-6459 6623 (4 Lines) Fax: 02-6458 1221

**E-mail** conweld@po.jaring.my Website : www.conweld.com.my

6th October 2008

**TWIN STAR CO., LTD**
No. 199, G/F, Room (3),
Bo Myat Tun Street,
Botataung Township,
Yangon, Myanmar

**RE : ROBIN ENGINES & CONSTRUCTION EQUIPMENT**

We understand that you are the exclusive agent for Robin Engines in Myanmar and in the meantime, you also manufacture compactors, concrete cutters, power trowels etc.

We are a well established firm dealing in power units like Robin & Honda Engines in Malaysia & also market a full range of construction equipment like concrete vibrators, power trowels, compactors etc. for the past twenty years.

We are interested to represent you in Malaysia & would appreciate your response as soon as possible.

Yours faithfully

宏 偉 機 械 有 限 公 司
CONWELD MACHINERY SDN. BHD.

............................................................

Low Terk Chen
Director

လျှို့ဝှက်

၂၀

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
# ဝန်ကြီးရုံး
# နေပြည်တော်

စာအမှတ်၊ ၅ / MIC / ( ၂၈၄ / ၂၀၀၇)

ရက်စွဲ၊ ၂၀၀၇ ခုနှစ်၊ ဩဂုတ်လ ( ၂၄ ) ရက်။

အကြောင်းအရာ ။ ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀-၇-၂၀၀၇) ရက်စွဲပါ စာအမှတ်၊ ရက - ၆ (က) / မ - ၉၈၀ / ၂၀၀၇ (၃၃၅၃)။

၁။ ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ ဆိပ်ကမ်းစက်မှုဇုန် အပိုင်း(၂)၊ မြေကွက်အမှတ်(၁၂၂)ရှိ မြေ(၂.၁၅၁)ဧကကို တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ငှားရမ်း၍ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် လျှပ်စစ်ဓာတ်အား(၁)နှစ် (၅၀၀)ကီလိုဝပ် လိုအပ်ချက်နှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် တောင်းခံမှုအပေါ် အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်။

၂။ တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စားယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်းမှ သုံးစွဲလိုသည့် လျှပ်စစ်ဓာတ်အား (၅၀၀)ကီလိုဝပ်ကို ဒဂုံဆိပ်ကမ်း (၃၃/၁၁)ကေဗွီ၊ ၁၀ အမ်ဗွီအေ ထရန်စဖော်မာမှ (၁၁)ကေဗွီ ဓာတ်အားလိုင်းဖြင့် ဓာတ်အားဆက်သွယ်ပေးနိုင်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီး ( ကိုယ်စား )

( စောဝင်း၊ ခေတ္တညွှန်ကြားရေးမှူးချုပ် )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူ - ဥက္ကဋ္ဌ

ရန်ကုန်မြို့တော်လျှပ်စစ်ဓာတ်အားပေးရေးအဖွဲ့

လျှို့ဝှက်

လျို့ဝှက်
၂၀

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် (၂) စက်မှုဝန်ကြီးဌာန

စာအမှတ် ။ ၇-၂၈၂(၃)၂၀၀၈(၉၃၄)
ရက်စွဲ ။ ၂၀၀၈ ခုနှစ်၊ ဇူလိုင်လ ( ၂ ) ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ကြယ်ညီနောင် စက်မှုထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြသည့် ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စား ယန္တရားထုတ်လုပ်ခြင်းလုပ်ငန်း စီမံကိန်း အဆိုပြုချက်အပေါ် သဘောထားမှတ် ချက်တောင်းခံသည့်ကိစ္စ

ရည်ညွှန်းချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀.၇.၂၀၀၇) ရက်စွဲပါ စာအမှတ်၊ ၇က-၆(က)/မ-၉၈၀/၂၀၀၇

(၂) အမှတ် (၂) စက်မှုဝန်ကြီးဌာန၏ (၂၆.၇.၂၀၀၇) ရက်စွဲပါ စာအမှတ်၊ ၇-၂၈၂(၁)၂၀၀၇(၇၆၂)

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂.၁၁.၂၀၀၇) ရက်စွဲပါ စာအမှတ်၊ ၇က-၆(က)/မ-၉၈၀/၂၀၀၇(၈၉၆၄-က)

(၄) အမှတ် (၂) စက်မှုဝန်ကြီးဌာန၏ (၂၈.၁.၂၀၀၈) ရက်စွဲပါ စာအမှတ်၊ ၇-၂၈၂(၃)၂၀၀၈(၁၀၅)

၁။ ကြယ်ညီနောင်စက်မှုထုတ်လုပ်မှုကုမ္ပဏီလီမိတက် (ယခင်အမည် - တွင်စတားထုတ်လုပ်မှု ကုမ္ပဏီလီမိတက်) မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြသည့် ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စားယန္တရား များထုတ်လုပ်ခြင်း လုပ်ငန်းစီမံကိန်း အဆိုပြုချက်နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ရည်ညွှန်း (၁) ပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာသဖြင့် အမှတ် (၂) စက်မှု ဝန်ကြီးဌာနမှ ရည်ညွှန်း (၂) ပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားခဲ့ပြီး ဖြစ်ပါသည်။

၂။ ယင်းကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်း (၃) ပါစာဖြင့် ကြယ်ညီနောင်စက်မှုထုတ်လုပ်မှုကုမ္ပဏီလီမိတက်၏ ရှင်းလင်းတင်ပြချက်ကို ပူးတွဲလျက် သဘော ထားမှတ်ချက် ထပ်မံတောင်းခံလာသည့်ကိစ္စအပေါ်တွင်လည်း ရည်ညွှန်း (၄) ပါစာဖြင့် သဘောထား မှတ်ချက် ထပ်မံပြန်ကြားပေးခဲ့ပါသည်။

လျို့ဝှက်

၃။ ဆက်လက်၍လည်း ရည်ညွှန်း (၄) ပါစာတွင် ထပ်မံပေးပို့ရေး ညှိနှိုင်းပေးပါရန် ဖော်ပြခဲ့သည့် -

(က) ပြည်တွင်း/ပြည်ပမှ ဝယ်ယူတပ်ဆင်မည့် စက်အစိတ်အပိုင်းများ၊ ကိုယ်တိုင်ထုတ်လုပ်မည့် ပစ္စည်းများ ခွဲခြားချက်ကို (၂၈.၂.၂၀၀၈) ရက်နေ့တွင်လည်းကောင်း၊

(ခ) စက်ပစ္စည်းဆိုင်ရာအချက်အလက် (Specification) များ၊ Pamphlet များကို (၂၀.၆.၂၀၀၈) ရက်နေ့တွင်လည်းကောင်း လက်ခံရရှိခဲ့ပါသည်။

၄။ စက်ပစ္စည်းများဆိုင်ရာ အချက်အလက်များပေးပို့ရာတွင် "ပြည်ပမှ ဝယ်ယူအသုံးပြုမည့် လုပ်ငန်းသုံးစက်ပစ္စည်းများ စာရင်းအသစ် ပြန်လည်တင်ပြခြင်း (ပူးတွဲ -က)" ကို လက်ခံရရှိခဲ့ပြီး အဆိုပါစက်ပစ္စည်းစာရင်းတွင် မူလစက်စာရင်းပါ စက်ပစ္စည်း (၁၃) မျိုး၊ စက်လုံးရေ (၁၉) လုံးအစား စက်ပစ္စည်း (၁၀) မျိုး၊ စက်လုံးရေ (၁၆) လုံးကိုသာ တင်သွင်းမည်ဟု ဖော်ပြပါရှိပြီး စက်ပစ္စည်းများအားလုံး၏တန်ဖိုးမှာ အမေရိကန်ဒေါ်လာ (၆၀,၇၀၀) ဖြစ်သဖြင့် မူလတန်ဖိုးအတိုင်း ပြောင်းလဲခြင်းမရှိကြောင်း တွေ့ရှိရပါသည်။

၅။ အထက်ပါ ထပ်မံရရှိခဲ့သော ပစ္စည်းစာရင်းများ၊ စက်စာရင်းများကို စိစစ်လျက် အမှတ် (၂) စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကို အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည် -

(က) <u>ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုး ညီညွတ်မှု ရှိ/ မရှိ</u>

- သင့်တင့်ညီညွတ်မှု ရှိပါသည်။

(ခ) <u>စက်ပစ္စည်းဈေးနှုန်းများနှင့် ကုန်ချောဈေးနှုန်းများ ဆီလျော်မှု ရှိ/ မရှိ</u>

- ပြည်ပမှတင်သွင်းမည့် လုပ်ငန်းသုံးစက်ပစ္စည်းများစာရင်း အသစ်ပြန်လည်တင်ပြချက်အရ တင်သွင်းမည့်စက်ပစ္စည်းများနှင့် ကုန်ချောဈေးနှုန်းများ ဆီလျော်မှု ရှိပါသည်။

(ဂ) <u>နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အားအချိုး ညီမျှမှု ရှိ/ မရှိ</u>

- ပြည်ပမှ တင်သွင်းမည့် လုပ်ငန်းသုံးစက်ပစ္စည်းများစာရင်းအသစ် ပြန်လည်တင်ပြချက်နှင့် ပြည်တွင်း/ပြည်ပ ဝယ်ယူတပ်ဆင်မည့် ပစ္စည်းများ၊ ကိုယ်တိုင်ထုတ်လုပ်မည့် စက်အစိတ်အပိုင်းများ ခွဲခြားဖော်ပြချက်အရ နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အားအချိုး ညီမျှမှုရှိပါသည်။

ဒုတိယဝန်ကြီး
(ဒုတိယဗိုလ်မှူးကြီးခင်မောင်ကျော်)

မိတ္တူကို - ၁။ မြန်မာ့စက်မှုလုပ်ငန်းများစီမံကိန်းညွှန်ကြားမှုဦးစီးဌာန
၂။ ရုံးလက်ခံ

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(ခ)/မ-၁၄၅၂/၂၀၀၈(၁၃၅၉၈ )
ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ ဩဂုတ်လ ၂၁ ရက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ ။ ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Twin Star Manufacturing Co., Ltd ) မှ ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီ ဖြစ်သော ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Twin Star Manufacturing Co., Ltd ) သည် အုပ်ချုပ်မှု ဒါရိုက်တာ ဦးလင်းကြည်အမည်ဖြင့် မြို့ရွာ နှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန မှ အသုံးပြုခွင့်ရရှိထားသော မြေကွက်အမှတ်(၁၂၂)၊ ဆိပ်ကမ်း စက်မှုဇုန် (၂)၊ ဒဂုံမြို့သစ် (ဆိပ်ကမ်း)မြို့နယ် ၊ ရန်ကုန်တိုင်း ရှိမြေ(၂.၁၅၁)ဧက (၈၇၀၄.၈၂ စတုရန်းမီတာ) ကို ငှားရမ်း၍ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စားယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ အဆိုပြုချက်ကို နောက်ဆက်တွဲ(က) ဖြင့် တင်ပြထားပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ(၀.၀၉)သန်း အပါအဝင် စုစုပေါင်း ကျပ်(၉၅.၅၅)သန်းဖြစ်ပါသည်။ ယင်းတွင် ငွေပမာဏကျပ်(၁၀.၀၀)သန်း၊ အဆောက်အဦ တန်ဖိုး ကျပ်(၅၀.၀၀)သန်း၊ စက်ပစ္စည်း ကိရိယာ တန်ဖိုး ကျပ်(၀.၃၆)သန်း (အမေရိကန် ဒေါ်လာ ၀.၀၆ သန်း) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းတန်ဖိုး ကျပ်(၅.၀၀)သန်းနှင့် ကုန်ကြမ်းတန်ဖိုး ကျပ် (၃၀.၁၉) သန်း (အမေရိကန်ဒေါ်လာ ၀.၀၃ သန်း အပါအဝင်) ထည့်ဝင်ရင်းနှီးမည် ဖြစ်ပါသည်။ လုပ်ငန်း အတွက် အသုံးပြုရန် လိုအပ်သော စက်ပစ္စည်းများကို စင်ကာပူသမ္မတနိုင်ငံရှိ Land & Marine Marketing Pte Ltd. ထံမှဝယ်ယူမည်ဖြစ်ကြောင်း MOU နှင့် Invoice များ တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်းမှ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စား ယန္တရားများထုတ်လုပ်မည် ဖြစ်၍ လုပ်ငန်းအတွက်အသုံးပြုရန်လိုအပ်သော ကုန်ကြမ်းပစ္စည်း နှစ်မျိုးဖြစ်သည့် 5.0 HP Engineနှင့် 13.5 HP Engine ကို စင်ကာပူနိုင်ငံရှိ Land & Marine Marketing Pte., Ltd မှ ဝယ်ယူမည်ဖြစ်ပြီး၊ ကျန်ကုန်ကြမ်းပစ္စည်းများကို ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ပါသည်။

၄။ လုပ်ငန်းမှ ထုတ်လုပ်သည့်ပစ္စည်းများကို ပြည်တွင်းတွင်(၁၀)ရာခိုင်နှုန်းနှင့် ပြည်ပသို့ (၉၀)ရာခိုင်နှုန်း တင်ပို့မည် ဖြစ်ပါသည်။ ပြည်ပဈေးကွက် အထောက်အထားအဖြစ် စင်ကာပူနိုင်ငံရှိ Land & Marine Marketing Pte ., Ltd မှ ကုန်ချောများ ဝယ်ယူမည့် အရောင်းအဝယ် စာချုပ်

တင်ပြထားပါသည်။ ပုံမှန်နှစ်ရှိထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာအောက်ပါအတိုင်းဖြစ်ပါသည်။

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ခုရေ) | တစ်ယူနစ်ရောင်းဈေးနှုန်း | |
|---|---|---|---|---|
| | | | ပြည်တွင်း(ကျပ်သိန်း) | ပြည်ပ (US$) |
| ၁။ | မြေသိပ်ရန်ရိုက်စက် | ၅၁၀၂ | ၁.၄၄ | ၁၁၅ |
| ၂။ | ဘိလပ်မြေ/မဆလာမျက်နှာပြင်ချောစက် | ၆၄၈ | ၄.၄၄ | ၄၀၈ |
| ၃။ | ကွန်ကရစ်ဖြတ်စက် | ၇၂၀ | ၄.၈၀ | ၄၄၄ |

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(သန်းပေါင်း)

| | | ပြည်ပတင်ပို့ခြင်း (အမေရိကန်ဒေါ်လာ) | ပြည်တွင်းရောင်းချခြင်း (ကျပ်) |
|---|---|---|---|
| (က) | ဝင်ငွေ | ၁.၀၅ | ၁၃၉.၁၀ |
| (ခ) | အသုံးစရိတ် | ၀.၇၀ | ၃၂၂.၀၈ |
| | | (+) ၀.၃၅ | (-) ၁၈၂.၉၈ |

(ပြည်တွင်း ရောင်းချမှု အချိုးအစား နည်းသဖြင့် ကျပ်ငွေအပိုင်းတွင် ဝင်ငွေနည်းပြီး အသုံးစရိတ်များနေခြင်းဖြစ်ပါသည်။ နိုင်ငံခြားငွေအပိုင်းတွင် ဝင်ငွေများပြီး အသုံးစရိတ်နည်းနေခြင်းဖြစ်ပါသည်။ ဝင်ငွေ အသုံးစရိတ်နှစ်ရပ်ပေါင်းအပေါ် ဈေးကွက်ပေါက်ဈေးငွေလဲလှယ်နှုန်းဖြင့် ခန့်မှန်းတွက်ချက်ပါက အသားတင်အမြတ် ကျပ်(၁၆၇.၀၂)သန်း ရရှိကြောင်း တွေ့ရှိရပါသည်။)

၆။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | အမေရိကန်ဒေါ်လာ | ၀.၀၆ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | အမေရိကန်ဒေါ်လာ | ၀.၁၁ သန်း |
| | | ကျပ် | ၁၃.၉၁ သန်း |

၇။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းလုပ်သား (၁၀၀)ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါ သည်။



*Twin Star Tc. m

၈။ ယင်းလုပ်ငန်း နှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာနများသို့ သဘောထား မှတ်ချက် တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားထားပါသည်။

- အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန မှ လျှပ်စစ် ဓါတ်အား လိုအပ်ချက် (၅၀၀) ကီလိုဝပ်ကိုဒဂုံဆိပ်ကမ်း(၃၃/၁၁)ကေဗွီ၊ ၁၀ အမ်ဗွီအေထရန်စဖော်မာမှ (၁၁)ကေဗွီ ဓါတ်အားလိုင်းဖြင့် ဓါတ်အားဆက်သွယ်ပေးနိုင်ပါကြောင်း၊
- အမှတ်(၂)စက်မှုဝန်ကြီးဌာနမှ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိကြောင်း၊ စက်ပစ္စည်းဈေးနှုန်းနှင့် ကုန်ချောဈေးနှုန်းများ ဆီလျော်မှု ရှိကြောင်းနှင့် နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အားအချိုးအစား ညီမျှမှုရှိကြောင်း၊
- ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ အဆိုပြု မြေကွက်ပေါ်တွင် စက်ရုံ အဆောက်အဦ ဆောက်လုပ်ထားခြင်းမရှိကြောင်း၊လုပ်ငန်းဆောင်ရွက်နေခြင်းမရှိကြောင်းနှင့်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သင့်လျော်ပါကြောင်း၊

၉။ ငွေကြေး ဆိုင်ရာ အထောက်အထား အဖြစ် ကမကထပြုသူ ဦးလင်းကြည် အမည်ဖြင့် သမဝါယမဘဏ်လီမိတက်ရှိ ကျပ်ငွေလက်ကျန်နှင့် မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်ရှိ နိုင်ငံခြားငွေ လက်ကျန်များ တင်ပြထားရာ လုပ်ငန်းဆောင်ရွက်နိုင်ကြောင်း သိရှိရပါ သည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှမည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှသတ်မှတ်ပြဌာန်းမည့် စည်းကမ်းချက် များကို လိုက်နာမည် ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်အတွက် လိုအပ် သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ ကုမ္ပဏီမှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပေးပါရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ် လုပ်ငန်းစတင်သော နှစ်အပါအဝင် တဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေးရ မည် ဖြစ်ပါသည်။ ၎င်းအပြင် စက်ပစ္စည်းနှင့် ကုန်ကြမ်းတင်သွင်းမှု များအတွက် ဥပဒေပုဒ်မ ၁၃ အရ လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပေးရမည် ဖြစ်ပါသည်။

၁၂။ ယင်းအဆိုပြုချက်အား (၂-၄-၂၀၀၈)နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၀၈) အစည်းအဝေးသို့ တင်ပြခဲ့ရာ "အဆိုပြုလုပ်ငန်း တင်ပြခြင်း အား အမှတ်(၂)စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အတူ ကုန်သွယ်မှုမူဝါဒကောင်စီ သို့ တင်ပြ ရန်" ဆုံးဖြတ်ခဲ့ပါသည်။ ယခုအခါ အမှတ်(၂)စက်မှုဝန်ကြီးဌာနမှ သဘောထားပြန်ကြားချက် ရရှိပြီး ဖြစ်၍ တင်ပြခြင်းဖြစ်ပါသည်။

၁၃။ ဆုံးဖြတ်ရန်အချက်

ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Twin Star Manufacturing Co., Ltd ) မှ ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး ၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊

ကုန်သွယ်မှု မူဝါဒ ကောင်စီ

## ကုမ္ပဏီဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင် အမည် | ဒါရိုက်တာ/အစုရှင် များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ( Twin Star Manufacturing Co., Ltd ) | ၁။ ဦးလင်းကြည် (အုပ်ချုပ်မှုဒါရိုက်တာ) | အမှတ် (၁၃၃) ၊ (၄၆) လမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဦးအောင်ကြည် (ဒါရိုက်တာ) | အမှတ် (၁၃၃) ၊ (၄၆) လမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဒေါ်ဥမ္မာသွင် (ဒါရိုက်တာ) | အမှတ်(၁၉၉)၊ဗိုလ်မြတ်ထွန်းလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ |

၁။ ကုမ္ပဏီ၏ တယ်လီဖုန်းအမှတ်/ - ၉၅၁ -၂၉၆၀၁၆ / ၂၉၇၇၅၀

ဖက်(စ်)နံပါတ် - ၉၅၁-၂၉၀၉၃၉

၂။ ကုမ္ပဏီ၏ လိပ်စာပြည့်အစုံ - အမှတ်(၁၉၉)၊ အခန်း(၃)၊မြေညီထပ်၊ ဗိုလ်မြတ်ထွန်းလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။

၃။ ကုမ္ပဏီ၏ဆက်သွယ်ရမည့်ပုဂ္ဂိုလ် အမည် /ရာထူး - ဦးလင်းကြည် (အုပ်ချုပ်မှုဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ - ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ - ၄၁၄/၂၀၀၈-၂၀၀၉(ယာယီ)(၉-၇-၂၀၀၈)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့် နေ့စွဲ - (၂၀-၁-၂၀၀၉)

၇။ ဘဏ်အမည်နှင့်ငွေစာရင်းအမှတ် - သမဝါယမဘဏ်လီမိတက် - 0132023674

- မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ် - 91645

လျှို့ဝှက်

၆

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

**အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**

ဝန်ကြီးရုံး

နေပြည်တော်

စာအမှတ်၊ ၅ / MIC / ( ၂၈၄ / ၂၀၀၇)

ရက်စွဲ၊ ၂၀၀၇ ခုနှစ်၊ ဩဂုတ်လ ( ၂၄ ) ရက်။

အကြောင်းအရာ ။ ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀-၇-၂၀၀၇) ရက်စွဲပါ စာအမှတ်၊ ရက - ၆ (က) / မ - ၉၈၀ / ၂၀၀၇ (၃၃၅၃)။

၁။ ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ ဆိပ်ကမ်းစက်မှုဇုန် အပိုင်း(၂)၊ မြေကွက်အမှတ်(၁၂၂)ရှိ မြေ(၂.၁၅၁)ဧကကို တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ငှားရမ်း၍ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် လျှပ်စစ်ဓာတ်အား(၁)နှစ် (၅၀၀)ကီလိုဝပ် လိုအပ်ချက်နှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် တောင်းခံမှုအပေါ် အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်။

၂။ တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စားယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်းမှ သုံးစွဲလိုသည့် လျှပ်စစ်ဓာတ်အား (၅၀၀)ကီလိုဝပ်ကို ဒဂုံဆိပ်ကမ်း (၃၃/၁၁)ကေဗွီ၊ ၁၀ အမ်ဗွီအေ ထရန်စဖော်မာမှ (၁၁)ကေဗွီ ဓာတ်အားလိုင်းဖြင့် ဓာတ်အားဆက်သွယ်ပေးနိုင်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီး ( ကိုယ်စား )

( စောဝင်း၊ ညွှန်ကြားရေးမှူးချုပ် )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူ - ဥက္ကဋ္ဌ

ရန်ကုန်မြို့တော်လျှပ်စစ်ဓာတ်အားပေးရေးအဖွဲ့

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် (၂) စက်မှုဝန်ကြီးဌာန

စာအမှတ် ။ ၇-၂၈၂(၃)၂၀၀၈(၉၃၄)
ရက်စွဲ ။ ၂၀၀၈ ခုနှစ်၊ ဇူလိုင်လ ( ၂ ) ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ကြယ်ညီနောင် စက်မှုထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြသည့် ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စားယန္တရားထုတ်လုပ်ခြင်းလုပ်ငန်း စီမံကိန်း အဆိုပြုချက်အပေါ် သဘောထားမှတ်ချက်တောင်းခံသည့်ကိစ္စ

ရည်ညွှန်းချက်။
(၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀.၇.၂၀၀၇) ရက်စွဲပါ စာအမှတ်၊ ၇က-၆(က)/မ-၉၈၀/၂၀၀၇
(၂) အမှတ် (၂) စက်မှုဝန်ကြီးဌာန၏ (၂၆.၇.၂၀၀၇) ရက်စွဲပါ စာအမှတ်၊ ၇-၂၈၂(၁)၂၀၀၇(၇၆၂)
(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂.၁၁.၂၀၀၇) ရက်စွဲပါ စာအမှတ်၊ ၇က-၆(က)/မ-၉၈၀/၂၀၀၇(၈၉၆၄-က)
(၄) အမှတ် (၂) စက်မှုဝန်ကြီးဌာန၏ (၂၈.၁.၂၀၀၈) ရက်စွဲပါ စာအမှတ်၊ ၇-၂၈၂(၃)၂၀၀၈(၁၀၅)

၁။ ကြယ်ညီနောင်စက်မှုထုတ်လုပ်မှုကုမ္ပဏီလီမိတက် (ယခင်အမည် - တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်) မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြသည့် ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စားယန္တရားများထုတ်လုပ်ခြင်း လုပ်ငန်းစီမံကိန်း အဆိုပြုချက်နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်း (၁) ပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာသဖြင့် အမှတ် (၂) စက်မှုဝန်ကြီးဌာနမှ ရည်ညွှန်း (၂) ပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားခဲ့ပြီး ဖြစ်ပါသည်။

၂။ ယင်းကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်း (၃) ပါစာဖြင့် ကြယ်ညီနောင်စက်မှုထုတ်လုပ်မှုကုမ္ပဏီလီမိတက်၏ ရှင်းလင်းတင်ပြချက်ကို ပူးတွဲလျက် သဘောထားမှတ်ချက် ထပ်မံတောင်းခံလာသည့်ကိစ္စအပေါ်တွင်လည်း ရည်ညွှန်း (၄) ပါစာဖြင့် သဘောထားမှတ်ချက် ထပ်မံပြန်ကြားပေးခဲ့ပါသည်။

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
## ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်၊ ၅၁ / ခွဲ - ၃ / ၂၀၀၇ (စီ ၆၉၁၃)
ရက်    စွဲ၊ ၂၀၀၇ ခုနှစ် ဒီဇင်ဘာလ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၂၀၀၇ခုနှစ်ဇူလိုင်လ(၁၀)ရက်နေ့စွဲပါ စာအမှတ်၊ ရက-၆ (က) / မ-၉၈၀ / ၂၀၀၇ (၃၃၅၄)

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ ဒဂုံမြို့သစ်(ဆိပ်ကမ်း) မြို့နယ်၊ ဒဂုံဆိပ်ကမ်းစက်မှုဇုန်အပိုင်း (၂) မြေကွက်အမှတ် - ၁၂၂ ရှိ မြေ (၂.၁၅၁)ဧကကို တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ငှားရမ်း၍ ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စားယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် အဆိုပြု တင်ပြခြင်းနှင့်စပ်လျဉ်း၍ အဆိုပါမြေကွက်အား စိစစ်ရာ (၂.၁၅၁) ဧက (၂၁၈' x ၄၅၀' /၄၁၈') အကျယ်အဝန်းရှိ မြေကွက်လွတ်ဖြစ်ပြီး မြေပေါ်တွင် စက်ရုံအဆောက်အဦးဆောက်လုပ်ထားခြင်း မရှိကြောင်းနှင့် လုပ်ငန်းဆောင်ရွက်နေခြင်းမရှိကြောင်းတွေ့ရှိရပါသည် ။

၂။ သို့ပါ၍ အဆိုပြုမြေကွက်ပေါ်တွင် ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စားယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သင့်လျော်သည်ဟု ယူဆပါကြောင်း တင်ပြအပ် ပါသည် ။

ဝန်ကြီး(ကိုယ်စား)
(ဗိုလ်မှူးချုပ်မြင့်သိန်း၊ ဒုတိယဝန်ကြီး)

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ။



အေး/

ကော်မရှင်၏ ၁၁ / ၂၀၀၈ အစည်းအဝေး

အကြောင်းအရာ။ ။ ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Twin Star Manufacturing Co., Ltd. ) မှ ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စား ယန္တယားများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co., Ltd ) (ဖွဲ့စည်းတည်ထောင်ခွင့် တင်ပြထားခြင်းအား ဝန်ကြီးဌာန ၊ စီမံခန့်ခွဲရေး ကော်မတီ အစည်းအဝေးမှ ခွင့်ပြုပြီးဖြစ်၍မှတ်ပုံတင်ကြေး ပေးသွင်းရန် ကုမ္ပဏီသို့ အကြောင်းကြားထားပါသည်။) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးလင်းကြည် (အဘ- ဦးမြင့်ဟန်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စား ယန္တယားများ ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၄။ | တည်နေရာ | - မြေကွက်အမှတ် (၁၂၂)၊ ဆိပ်ကမ်းစက်မှုဇုန် (၂)၊ ဒဂုံမြို့သစ် (ဆိပ်ကမ်း)မြို့နယ်၊ ရန်ကုန်တိုင်း။ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၉၅.၅၅ သန်း (US $ ၀.၀၉ သန်းအပါအဝင်) |
| | - ငွေပမာဏ | ၁၀.၀၀ |
| | - အဆောက်အဦ | ၅၀.၀၀ |
| | - စက်ပစ္စည်းကိရိယာ | ၀.၃၆ ( US $ ၀.၀၆ သန်း ) |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်း | ၅.၀၀ |
| | - ကုန်ကြမ်း | ၃၀.၁၉ ( US $ ၀.၀၃ သန်း အပါအဝင်) |
| ၆။ | မြေအကြောင်းအရာ | |
| | - မြေအကျယ်အဝန်း | - (၂.၁၅၁) ဧက (၈၇၀၄.၈၂ စတုရန်းမီတာ) |
| | - မြေပိုင်ဆိုင်မှု | - ဦးလင်းကြည် အမည်ဖြင့် မြို့ရွာ နှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန မှ အသုံးပြုခွင့်ပေးထားသော မြေကို ကုမ္ပဏီမှ ငှားရမ်း အသုံးပြုမည် ဖြစ်ပါသည်။ (၁၈၉၈ ခုနှစ် မြေအက်ဥပဒေ ပုဒ်မ ၄ (၁၀) အရ မြေအသုံးပြုမှု ကို လွှဲပြောင်းခွင့်ရှိပါသည်။) |

| | | |
|---|---|---|
| | | - မြေပိုင်ဆိုင်မှု အထောက်အထားအဖြစ် မြေဖိုးပေးသွင်းသည့် အထောက်အထားနှင့် မြေအရောင်းအဝယ် စာချုပ်တင်ပြထားပါသည်။လက်ရှိမူအရ အဆောက်အဦ ဆောက်လုပ်ပြီးမှ မြေဂရံ ထုတ်ပေးမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |
| | - မြေအမျိုးအစား | - စက်မှုဇုန်မြေ |
| ၇။ | - အဆောက်အဦလိုအပ်ချက် | - (၁၈၀' x ၁၀၀') R.C (၁)ထပ် (၁)လုံး |
| ၈။ | ထုတ်လုပ်မှု(ပုံမှန်နှစ်) | ခုရေ |
| | - မြေသိပ်ရန်ရိုက်စက် | ၅၁၁၂ |
| | - ဘီလပ်မြေ/ မဆလာ မျက်နှာပြင် ချောစက် | ၆၄၈ |
| | - ကွန်ကရစ် ဖြတ်စက် | ၇၂၀ |
| ၉။ | ရောင်းချမည့်နည်းစနစ် | |
| | - ပြည်တွင်း | ၁၀ % |
| | - ပြည်ပ | ၉၀ % |
| | | (ပြည်ပဈေးကွက် အထောက်အထားအဖြစ် စင်ကာပူ နိုင်ငံရှိ Land & Marine Marketing Pte Ltd) မှ ကုန်ချော များ ဝယ်ယူမည့်အရောင်းအဝယ်စာချုပ် တင်ပြ ထားပါသည်။) |
| ၁၀။ | ရောင်းဈေးနှုန်း(ပုံမှန်နှစ်) | တစ်ယူနစ် ပြည်ပရောင်းဈေး (US$) / တစ်ယူနစ်ပြည်တွင်းရောင်းဈေး (ကျပ်ထောင်ပေါင်း) |
| | - မြေသိပ်ရန်ရိုက်စက် | ၁၁၅ / ၁၄၄ |
| | - ဘီလပ်မြေ/ မဆလာ မျက်နှာပြင် ချောစက် | ၄၀၈ / ၄၄၄ |
| | - ကွန်ကရစ် ဖြတ်စက် | ၄၄၄ / ၄၈၀ |
| ၁၁။ | ဝင်ငွေ(ပုံမှန်နှစ်) | |
| | - နိုင်ငံခြားငွေဖြင့် | US$ ၁.၀၅ သန်း |
| | - ကျပ်ငွေဖြင့် | ကျပ် ၁၃၉.၁၀ သန်း |

| | | |
|---|---|---|
| ၁၂။ | အသားတင်အမြတ်(ပုံမှန်နှစ်) | US$ ၀.၃၅ သန်း<br>- လုပ်ငန်းမှ ထုတ်လုပ်သည့် ပစ္စည်းများကို ပြည်ပသို့ ၉၀% တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြား ဝင်ငွေ US$ (၁.၀၅)သန်း ရရှိမည် ဖြစ်ပါသည်။ နိုင်ငံခြားငွေ အသုံးစရိတ်အဖြစ် ပြည်ပမှ တင်သွင်းရမည့် အင်ဂျင်တန်ဘိုး US$ (၀.၅၄)သန်း၊ပို့ကုန်ရောင်းရငွေ အပေါ် အခွန်၁၀% ပေးဆောင် ခြင်းအတွက် US$ (၀.၁၀)သန်းနှင့်ပို့ကုန်မှရရှိသော အမြတ်ငွေအပေါ်ဝင်ငွေခွန် ၁၅% ပေးဆောင်ခြင်း အတွက် US$ (၀.၀၆)သန်း ဖြစ်၍ စုစုပေါင်း အသုံးစရိတ် US$ (၀.၇၀)သန်း ရှိသဖြင့် နိုင်ငံခြားငွေ ဖြင့် အမြတ်ငွေ US$ (၀.၃၅)သန်း ရရှိမည် ဖြစ်ကြောင်း ခန့်မှန်း တင်ပြ ထားပါသည်။<br>- ထုတ်လုပ်သည့် ပစ္စည်းများကို ပြည်တွင်းတွင် ၁၀ % ရောင်းချသည့် အတွက် ဝင်ငွေကျပ် (၁၃၉)သန်း သာ ရရှိမည် ဖြစ်ပါသည်။ အသုံးစရိတ်မှာ ကုန်ကြမ်းတန်ဘိုး ကျပ် (၂၂၀)သန်း၊ မြေငှားရမ်းခ၊ အလုပ်သမား လစာနှင့်စက်ရုံ ဝန်ဆောင် စရိတ်များ တန်ဘိုး ကျပ် (၁၀၂)သန်းဖြစ်၍ စုစုပေါင်း ကျပ် (၃၂၂)သန်း ရှိကြောင်း စိစစ်ရသဖြင့် စရိတ်များ၍ ဝင်ငွေနဲနေပါသည်။ သို့ဖြစ်၍ ပြည်ပ ရောင်းရငွေ FE ကို အမေရိကန်တစ်ဒေါ်လာလျှင် ဈေးကွက် ပေါက်ဈေး ၁၀၀၀ ကျပ် နှုန်းနှင့်မှန်းဆပါက လုပ်ငန်းတစ်ခုလုံး၏ ပြည်တွင်း ပြည်ပရောင်းချခြင်းဖြင့် ဝင်ငွေ စုစုပေါင်းကျပ် (၁၁၉၂)သန်း ရရှိပြီး ၊ ပြည်တွင်း ပြည်ပ အသုံးစရိတ် စုစုပေါင်း ကျပ် (၁၀၂၂)သန်း ရှိ၍ အသားတင်အမြတ် ကျပ် (၁၇၀)သန်းခန့် ရရှိနိုင်ကြောင်း ယခုအစည်းအဝေး၌သာအလွတ်သဘောခန့်မှန်း တင်ပြခြင်း ဖြစ်ပါသည်။ |
| ၁၃။ | နိုင်ငံတော်မှပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ် | |
| | - ဝင်ငွေခွန် | US$ ၀.၀၆ သန်း |
| | - ကုန်သွယ်လုပ်ငန်းခွန်<br>(ပြည်ပရောင်းရငွေအပေါ်၁၀%)<br>(ပြည်တွင်းရောင်းရငွေ အပေါ် ၁၀%) | <br>US$ ၀.၁၁ သန်း<br>ကျပ် ၁၃.၉၁ သန်း |

| | | |
|---|---|---|
| ၁၄။ | လုပ်သားအင်အား(ပြည်တွင်း) | - ၁၀၀ ဦး |
| ၁၅။ | တည်ဆောက်မှု ကာလ | - (၁၂) လ |
| ၁၆။ | စက်ပစ္စည်း ဝယ်ယူရန် နှင့် ငွေကြေး အထောက် အထား | - လုပ်ငန်းအတွက် အသုံးပြုရန် လိုအပ်သော US$ (၀.၀၆) သန်းဘိုးရှိစက်ပစ္စည်းများကို စင်ကာပူ သမ္မတ နိုင်ငံရှိ Land & Marine Marketing Pte Ltd. ထံမှ ဝယ်ယူမည် ဖြစ်ကြောင်း MOU နှင့် Invoice များ တင်ပြထား ပါသည်။<br><br>- ငွေကြေးဆိုင်ရာ အထောက်အထား အဖြစ် ကမကထ ဖြစ်သူ ဦးလင်းကြည် အမည်ဖြင့် သမဝါယမဘဏ်လီမိတက်ရှိ ကျပ်ငွေ လက်ကျန်နှင့် မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်ရှိ နိုင်ငံခြား ငွေ လက်ကျန်များ တင်ပြထားရာ လုပ်ငန်း ဆောင်ရွက်နိုင် ကြောင်း စိစစ်ရပါသည်။ |
| ၁၇။ | ကုန်ကြမ်းရရှိမှု | - လုပ်ငန်းအတွက် အသုံးပြုရန် လိုအပ်သော ကုန်ကြမ်းပစ္စည်း နှစ်မျိုးဖြစ်သည့် 5.0 HP Engine နှင့် 13.5 HP Engine ကို စင်ကာပူ နိုင်ငံရှိ Land & Marine Marketing Pte Ltd. ထံမှ ဝယ်ယူမည် ဖြစ်ပြီး ၊ ပြည်တွင်းတွင် ဝယ်ယူရရှိနိုင်သည့် ကျန် ကုန်ကြမ်းပစ္စည်းများ ကို ပြည်တွင်းမှ ဝယ်ယူမည် ဖြစ်ပါသည်။ |
| ၁၈။ | သက်ဆိုင်ရာဝန်ကြီးဌာန သဘောထားမှတ်ချက် | - အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာနမှ လျှပ်စစ်ဓါတ်အား လိုအပ်ချက် (၅၀၀) ကီလိုဝပ်ကို ဒဂုံ ဆိပ်ကမ်း (၃၃/၁၁)ကေဗွီ၊ ၁၀ အမ်ဗွီအေ ထရန်စဖော်မာ မှ (၁၁)ကေဗွီ ဓါတ်အားလိုင်း ဖြင့် ဓါတ်အား ဆက်သွယ် ပေးနိုင်ပါကြောင်း၊ သဘောထား ပြန် ကြားထားပါသည်။ (ပူးတွဲ)<br><br>( ၎င်းသဘောထား မှတ်ချက်ရရန်အချိန် (၁)လ ခန့် ကြာမြင့် ကြောင်း ယခု အစည်းအဝေး၌ သိသာရန် တင်ပြခြင်း ဖြစ်ပါ သည်။)<br><br>- ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ အဆိုပြု မြေပေါ်တွင် စက်ရုံ အဆောက်အဦ ဆောက်လုပ်ထားခြင်း မရှိကြောင်း၊ လုပ်ငန်း ဆောင်ရွက်နေခြင်း မရှိကြောင်း နှင့် လုပ်ငန်း ဆောင်ရွက်ခွင့် ပြုရန် သင့်လျော်ကြောင်းသဘောထား ပြန်ကြားထား ပါသည်။ (ပူးတွဲ) |

| | | |
|---|---|---|
| | | ( ၎င်းသဘောထား မှတ်ချက်ရရန်အချိန် (၅)လ ခန့် ကြာမြင့်ကြောင်း ယခု အစည်းအဝေး၌ သိသာရန် တင်ပြခြင်း ဖြစ်ပါသည်။)<br>- အမှတ်(၂) စက်မှု ဝန်ကြီးဌာနမှ ကုန်ကြမ်းဈေးနှုန်း ပြင်ဆင်ရန် လိုအပ်ခြင်း ၊ ကုန်ချော၏ Parts List / Drawing မပါရှိခြင်း၊ စက် တစ်ခုချင်း၏ Specification များ ဖော်ပြထားခြင်းမရှိဘဲ ယေဘူယျ အချက်အလက်သာ ဖော်ပြထားခြင်း ၊ Export အဓိကထားဆောင်ရွက်သည့် လုပ်ငန်း ဖြစ်၍ Export Quality ရရှိရန် လိုအပ်သည့် Equipment & Tools များ ကို ထပ်မံဖြည့်တင်းရန် လိုအပ်ကြောင်း (၂၆-၇-၂၀၀၇) ရက်စွဲဖြင့် ပထမအကြိမ် သဘောထား မှတ်ချက် ပြန်ကြားလာပါသည်။(ပူးတွဲ)<br>- အဆိုပါ သဘောထားပြန်ကြားချက်အရ လိုအပ်ချက်များအား ကုမ္ပဏီမှ ပြန်လည်ရှင်းလင်း တင်ပြလာခြင်းအပေါ် အောက်ပါ အချက်အလက်များအားကုမ္ပဏီမှ ထပ်မံပေးပို့ရေး ဆောင်ရွက်ပေးရန် အမှတ်(၂) စက်မှု ဝန်ကြီးဌာနမှ (၂၈-၁-၂၀၀၈) ရက်စွဲဖြင့် ထပ်မံ အကြောင်းကြားလာပါသည်။ (ပူးတွဲ)<br>(၁) စက်ပစ္စည်းများဆိုင်ရာ အချက်အလက် (Specification) များ ၊ Pamphlet များ၊<br>(၂) ပြည်တွင်း / ပြည်ပ မှ ဝယ်ယူ တပ်ဆင်မည့် ပစ္စည်းအစိတ်အပိုင်းများ ၊ ကိုယ်တိုင် ထုတ်လုပ်မည့် ပစ္စည်းအစိတ်အပိုင်းများ စသည်ဖြင့် ခွဲခြားဖော်ပြရန်၊<br>- အထက်ပါ အကြောင်းပြန်ကြားချက်အရ ကုမ္ပဏီမှ တာဝန်ရှိသူ အနေဖြင့် သက်ဆိုင်ရာ ဌာနနှင့် ဆက်သွယ်ပြီး ၎င်းဌာန၏ အကြံ ပြုချက်နှင့် အညီ ပြင်ဆင်ထားသည့် အဆိုပြုချက် တင်ပြပေးရန် ကုမ္ပဏီသို့ (၇-၂-၂၀၀၈) ရက်စွဲဖြင့် အကြောင်းကြားခဲ့ရာ ကုမ္ပဏီမှ ဌာနနှင့် ညှိနှိုင်း ဆောင်ရွက် နေကြောင်း သိရှိရပါသည်။ |
| ၁၉။ | ကတိဝန်ခံချက်များ | - ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှမည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊<br>- မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း ချက်များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ၊ |

| | | |
|---|---|---|
| | | - ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန်နှင့် မီးဘေးအန္တရာယ်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊<br>- ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း ဒေသန္တရ စက်မှုကြီးကြပ်ရေး နှင့် လုပ်ငန်း စစ်ဆေးမှု ညွှန်ကြားရေး ဦးစီးဌာနတွင် မှတ်ပုံတင် ထားရှိမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |
| ၂၀။ | အခွန်ကင်းလွတ်ခွင့်/<br>သက်သာခွင့် | - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ၁၂ အရ စီးပွားဖြစ်လုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ |

## ကုမ္ပဏီဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင် အမည် | ဒါရိုက်တာ/အစုရှင် များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်<br><br>(Twin Star Manufacturing Co., Ltd.) | ၁။ ဦးလင်းကြည် (အုပ်ချုပ်မှုဒါရိုက်တာ)<br><br>၂။ ဦးအောင်ကြည် (ဒါရိုက်တာ)<br><br>၃။ ဒေါ်ဥမ္မာသွင် (ဒါရိုက်တာ) | အမှတ်(၁၉၉)၊ဗိုလ်မြတ်ထွန်းလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။<br><br>အမှတ်(၁၃၃)၊ ၄၆ လမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။<br><br>အမှတ်(၁၉၉)၊ဗိုလ်မြတ်ထွန်းလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ |

m-၁၁၅၆
၁၀/၁

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမှတ် (၂) စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၇ – ၂စ၂ (၃) ၂၀၀၈ (၁၀၅)

ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ ဇန်နဝါရီလ (၂၈) ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ကြယ်ညီနောင်စက်မှုထုတ်လုပ်မှုကုမ္ပဏီလီမိတက် (ယခင်အမည် – တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်)မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြသည့် ဆောက်လုပ်ရေးလုပ်ငန်းသုံးအပေါ့စားယန္တရားများထုတ်လုပ်ခြင်း လုပ်ငန်းစီမံကိန်းအဆိုပြုချက်အပေါ် သဘောထားမှတ်ချက် ထပ်မံတောင်းခံလာသည့်ကိစ္စ

ရည်ညွှန်းချက် (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀.၇.၀၇ ရက်စွဲပါစာအမှတ် ရက–၆(က)/မ–၉၈၀/၂၀၀၇

(၂) အမှတ် (၂) စက်မှုဝန်ကြီးဌာန၏ ၂၆.၇.၀၇ ရက်စွဲပါစာအမှတ် ၇–၂စ၂(၁)၂၀၀၇ (၇၆၂)

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂.၁၁.၀၇ ရက်စွဲပါစာအမှတ် ရက–၆(က)/မ–၉၈၀/၂၀၀၇ (၈၉၆၄–က)

(၄) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅.၁.၀၈ ရက်စွဲပါစာအမှတ် ရက–၆(က)/မ–၉၈၀/၂၀၀၈ (၉၀၈)

၁။ ကြယ်ညီနောင်စက်မှုထုတ်လုပ်မှုကုမ္ပဏီလီမိတက် (ယခင်အမည် – တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်) မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြသည့်ဆောက်လုပ်ရေးလုပ်ငန်းသုံးအပေါ့စားယန္တရားများ ထုတ်လုပ်ခြင်း လုပ်ငန်းစီမံကိန်းအဆိုပြုချက်နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်း(၁)ပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံလာသဖြင့် ရည်ညွှန်း(၂)ပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားခဲ့ပြီး ဖြစ်ပါသည်။

၂။ ယင်းကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်း(၃)ပါစာဖြင့် ကြယ်ညီနောင်စက်မှုထုတ်လုပ်မှုကုမ္ပဏီလီမိတက်၏ ရှင်းလင်းတင်ပြချက် ပူးတွဲလျက် သဘောထားမှတ်ချက် ထပ်မံတောင်းခံလာသည့်ကိစ္စအပေါ် အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) <u>ကုန်ကြမ်းလိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစားညီညွတ်မှု ရှိ-မရှိ</u>

- သင့်တင့်မှုရှိပါသည်။

(ခ) <u>စက်ပစ္စည်းဈေးနှုန်းများနှင့်ကုန်ချောဈေးနှုန်းများ ဆီလျော်မှု ရှိ-မရှိ၊</u>

- တင်သွင်းမည့်စက်ပစ္စည်းများ၏ထုတ်လုပ်သူ၊ စက်ပစ္စည်းဆိုင်ရာ အချက်အလက် (Specification)များ ပူးတွဲဖော်ပြထားခြင်းမရှိ၍ စိစစ်နိုင်ခြင်း မရှိပါ။ စက်ပစ္စည်းများဆိုင်ရာအချက်အလက် (Specification) များ၊ pamphlet များ စိစစ်ရန် လိုအပ်ပါသည်။

(ဂ) <u>နှစ်စဉ်ထုတ်လုပ်မှုနှင့်စက်အင်အားအချိုးအစား ညီမျှမှု ရှိ-မရှိ၊</u>

- စက်မှုပိုင်းဆိုင်ရာတပ်ဆင်မှု (Assembly) အဓိကဆောင်ရွက်မည့် လုပ်ငန်း ဟု ယူဆပါသည်။
- ပြည်တွင်း/ပြည်ပမှ ဝယ်ယူတပ်ဆင်မည့် ပစ္စည်းအစိတ်အပိုင်းများ၊ ကိုယ်တိုင်ထုတ်လုပ်မည့်ပစ္စည်းအစိတ်အပိုင်းများ စသည်ဖြင့် ခွဲခြား ဖော်ပြထားခြင်း မရှိ၍ စိစစ်ရန် အခက်အခဲရှိပါသည်။

၃။ သို့ဖြစ်ပါ၍ ထပ်မံစိစစ်ပြန်ကြားနိုင်ရေးအတွက် အောက်ပါအချက်အလက်များအား သက်ဆိုင်ရာကုမ္ပဏီမှ တောင်းခံ၍ ထပ်မံပေးပို့ပေးရေး ဆောင်ရွက်ပေးပါရန် ညှိနှိုင်းအပ်ပါသည် -

(က) စက်ပစ္စည်းများဆိုင်ရာအချက်အလက် (Specification) များ၊ pamphlet များ

(ခ) ပြည်တွင်း/ပြည်ပမှ ဝယ်ယူတပ်ဆင်မည့် ပစ္စည်းအစိတ်အပိုင်းများ၊ ကိုယ်တိုင် ထုတ်လုပ်မည့် ပစ္စည်းအစိတ်အပိုင်းများ စသည်ဖြင့် ခွဲခြားဖော်ပြပေးရန်

ဒုတိယဝန်ကြီး ( ကိုယ်စား )
( သွင်မြင့်မောင်၊ ရုံးအဖွဲ့မှူး )

မိတ္တူကို

၁။ မြန်မာ့စက်မှုလုပ်ငန်းများစီမံကိန်းညွှန်ကြားမှုဦးစီးဌာန

၂။ ရုံးလက်ခံ

၈၁-၇၇၄
၃၀/၇

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**

**အမှတ် (၂) စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၇-၂၈၂(၁)၂၀၀၇ (၇၆၂)
ရက်စွဲ၊ ၂၀၀၇ ခုနှစ်၊ ဇူလိုင်လ ( ၂၆ ) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>တွင်းစတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆို ပြုတင်ပြသည့် ဆောက်လုပ်ရေးလုပ်ငန်းသုံးအပေါ့ စားယန္တရားများထုတ်လုပ်ခြင်း လုပ်ငန်းစီမံကိန်းအဆိုပြုချက်အပေါ် သဘောထားမှတ်ချက် တောင်းခံလာသည့် ကိစ္စ</u>

ရည်ညွှန်းချက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀.၇.၀၇ ရက်စွဲပါစာအမှတ် ရက- ၆(က)/မ-၉၈၀/၂၀၀၇ (၃၃၅၅)

၁။ တွင်းစတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အရ ဆောင်ရွက်ခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြသည့် ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စားယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်းစီမံကိန်း အဆိုပြုချက်နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် အမှတ် (၂) စက်မှုဝန်ကြီးဌာနသို့ အောက်ပါအချက်များအား စိစစ်ပြန်ကြားပေးရန် နှင့် လုပ်ငန်းနှင့်စပ်လျဉ်းသည့် ကျွမ်းကျင်မှုနည်းပညာရပ်ပိုင်းဆိုင်ရာ အချက် အလက်များကို အထူးပြုပြန်ကြားပေးရန် အကြောင်းကြားလာပါသည် -

(က) ကုန်ကြမ်းလိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစားညီညွှတ်မှု ရှိ-မရှိ
(ခ) စက်ပစ္စည်းဈေးနှုန်းများနှင့်ကုန်ချောဈေးနှုန်းများ ဆီလျော်မှု ရှိ-မရှိ၊
(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့်စက်အင်အားအချိုးအစား ညီမျှမှု ရှိ-မရှိ၊

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည် –

(က) <u>ကုန်ကြမ်းလိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစားညီညွတ်မှု ရှိ–မရှိ</u>

- တွင်းစတားထုတ်လုပ်မှုကုမ္ပဏီတွင် သံရည်ကျိုအလုပ်ရုံ ပါဝင်ခြင်း မရှိ၍ ပြည်တွင်းမှဝယ်ယူသည့် ကုန်ကြမ်းစာရင်းတွင် Cast Iron အစား Casted Parts ဖြစ်သင့်ပြီး ဝယ်ယူမည့် အစိတ်အပိုင်း ဖော်ပြသင့်ပါသည်။
- Cast Iron တစ်တန်လျှင် ကျပ် ၃.၆ သိန်းအစား Casted Parts တစ်တန်လျှင် ကျပ် ၇ သိန်းဈေးနှုန်းခန့်ဖြစ်၍ ပြင်ဆင်ရန် လိုအပ်ပါသည်။
- အခြားလိုအပ်ချက်များကို အသေးစိတ်ဖော်ပြထားခြင်း မရှိခြင်း၊ ကုန်ချော၏ Parts List/ Drawing များ မပါရှိခြင်းတို့ကြောင့် စိစစ်နိုင်ခြင်း မရှိသဖြင့် သဘောထားမှတ်ချက် ပေးနိုင်ခြင်း မရှိပါ။
- Engine 5 HP ၏ ဈေးနှုန်း 52 $ သည် ဈေးနှုန်းနည်းပြီး လက်ရှိပေါက်ဈေးတွင် တရုတ်နိုင်ငံလုပ်ဒီဇယ်အင်ဂျင် 5 HP သည် ဒေါ်လာ (၈၀) ခန့်ဖြစ်၍ ဈေးနှုန်း ညှိနှိုင်းသင့်ပါသည်။

(ခ) <u>စက်ပစ္စည်းဈေးနှုန်းများနှင့်ကုန်ချောဈေးနှုန်းများ ဆီလျော်မှု ရှိ–မရှိ၊</u>

- စက်တစ်ခုချင်း၏ Specification များ ဖော်ပြထားခြင်းမရှိဘဲ ယေဘုယျအချက်အလက်သာ ဖော်ပြထားပါသည်။
- ဖော်ပြပါစက်ပစ္စည်းများဈေးနှုန်းသည် Capacity အသေးစားများ၊ အရွယ်အစားငယ်များ ဖြစ်ပါက ဈေးနှုန်းသင့်တင့်မှုရှိပါသည်။
- Export အဓိကထား ထုတ်လုပ်မည့်လုပ်ငန်းဖြစ်၍ ကုန်ချောဈေးနှုန်းကို အမေရိကန်ဒေါ်လာဖြင့် ဖော်ပြထားပြီး ဆီလျော်မှုရှိပါသည်။

(ဂ) <u>နှစ်စဉ်ထုတ်လုပ်မှုနှင့်စက်အင်အားအချိုးအစား ညီမျှမှု ရှိ–မရှိ၊</u>

- စက်မှုပိုင်းဆိုင်ရာ တပ်ဆင်မှု (Assembly) အဓိကဆောင်ရွက်သည့် လုပ်ငန်းဖြစ်ပါသည်။
- စက်ပစ္စည်းစာရင်းတွင် Surface Finishing, Painting Facilities နှင့် တပ်ဆင်ရေးသုံး Tools များကို ဖော်ပြထားခြင်း မရှိသော်လည်း Export အဓိကဆောင်ရွက်သည့်လုပ်ငန်းဖြစ်၍ Export Quality ရရှိရန်လိုအပ်သည့် Equipment & Tools များကို ထပ်မံဖြည့်တင်းအသုံးပြုရန် လိုအပ်မည်ဟု သုံးသပ်ရရှိပါသည်။

- လိုအပ်သည့်အခြားအစိတ်အပိုင်းများကို ပြည်တွင်းထုတ်လုပ်သူများထံမှ ဝယ်ယူသုံးစွဲတပ်ဆင်မှသာ နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အားအချိုးအစား ညီမျှမှုရှိမည် ဟု သုံးသပ်ပါသည်။

ဝန်ကြီး ( ကိုယ်စား )

(ဒုတိယဗိုလ်မှူးကြီးခင်မောင်ကျော်၊ ဒုတိယဝန်ကြီး)

မိတ္တူကို

၁။ မြန်မာ့စက်မှုလုပ်ငန်းများစီမံကိန်းညွှန်ကြားမှုဦးစီးဌာန

၂။ ရုံးလက်ခံ

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
**ဆောက်လုပ်ရေးဝန်ကြီးဌာန**

စာအမှတ်၊ ၅၁ / ခွဲ-၃ / ၂၀၀၇ (စီ ၆၉၁၃)
ရက်  စွဲ၊ ၂၀၀၇ ခုနှစ် ဒီဇင်ဘာလ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၂၀၀၇ခုနှစ်ဇူလိုင်လ(၁၀)ရက်နေ့စွဲပါ စာအမှတ်၊ ရက-၆ (က) / မ-၉၈၀ / ၂၀၀၇ (၃၃၅၄)

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ ဒဂုံမြို့သစ်(ဆိပ်ကမ်း) မြို့နယ်၊ ဒဂုံဆိပ်ကမ်းစက်မှုဇုန်အပိုင်း (၂) မြေကွက်အမှတ် - ၁၂၂ ရှိ မြေ (၂.၁၅၁)ဧကကို တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ငှားရမ်း၍ ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စားယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် အဆိုပြု တင်ပြခြင်းနှင့်စပ်လျဉ်း၍ အဆိုပါမြေကွက်အား စိစစ်ရာ (၂.၁၅၁) ဧက (၂၁၈'x ၄၅၀'/၄၁၈') အကျယ်အဝန်းရှိ မြေကွက်လွတ်ဖြစ်ပြီး မြေပေါ်တွင် စက်ရုံအဆောက်အဦးဆောက်လုပ်ထားခြင်း မရှိကြောင်းနှင့် လုပ်ငန်းဆောင်ရွက်နေခြင်းမရှိကြောင်းတွေ့ရှိရပါသည်။

၂။ သို့ပါ၍ အဆိုပြုမြေကွက်ပေါ်တွင် ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စားယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သင့်လျော်သည်ဟု ယူဆပါကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
(ဗိုလ်မှူးချုပ်မြင့်သိန်း၊ ဒုတိယဝန်ကြီး)

မိတ္တူကို
- ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
**အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၅ / MIC / ( ၂၈၄ / ၂၀၀၇)
ရက်စွဲ၊ ၂၀၀၇ ခုနှစ်၊ ဩဂုတ်လ ( ၂၄ ) ရက်။

အကြောင်းအရာ ။ ။ **<u>သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ။</u>**

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀-၇-၂၀၀၇) ရက်စွဲပါ စာအမှတ်၊ ရက - ၆ (က) / မ - ၉၈၀ / ၂၀၀၇ (၃၃၅၃)။

၁။ ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ ဆိပ်ကမ်းစက်မှုဇုန် အပိုင်း(၂)၊ မြေကွက်အမှတ်(၁၂၂)ရှိ မြေ(၂.၁၅၁)ဧကကို တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ငှားရမ်း၍ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် လျှပ်စစ်ဓာတ်အား(၁)နှစ် (၅၀၀)ကီလိုဝပ် လိုအပ်ချက်နှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် တောင်းခံမှုအပေါ် အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်။

၂။ တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စားယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်းမှ သုံးစွဲလိုသည့် လျှပ်စစ်ဓာတ်အား (၅၀၀)ကီလိုဝပ်ကို ဒဂုံဆိပ်ကမ်း (၃၃/၁၁)ကေဗွီ၊ ၁၀ အမ်ဗွီအေ ထရန်စဖော်မာမှ (၁၁)ကေဗွီ ဓာတ်အားလိုင်းဖြင့် ဓာတ်အားဆက်သွယ်ပေးနိုင်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီး ( ကိုယ်စား )
( စောဝင်း၊ ဒေတ္တညွှန်ကြားရေးမှူးချုပ် )

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

မိတ္တူ - ဥက္ကဋ္ဌ
ရန်ကုန်မြို့တော်လျှပ်စစ်ဓာတ်အားပေးရေးအဖွဲ့

## စီးပွားရေးဆိုင်ရာ အဓိကအချက်များ

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co., Ltd ) | |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးလင်းကြည် (အဘ- ဦးမြင့်ဟန်) | |
| ၃။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၉၅.၅၅ သန်း | (US $ ၀.၀၉ သန်းအပါအဝင်) |
| | - ငွေပမာဏ | ၁၀.၀၀ | |
| | - အဆောက်အဦ | ၅၀.၀၀ | |
| | - စက်ပစ္စည်းကိရိယာ | ၀.၃၆ | ( US $ ၀.၀၆ သန်း ) |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်း | ၅.၀၀ | |
| | - ကုန်ကြမ်း | ၃၀.၁၉ | ( US $ ၀.၀၃ သန်း အပါအဝင်) |
| ၄။ | ထုတ်လုပ်မှု(ပုံမှန်နှစ်) | ခုရေ | |
| | - မြေသိပ်ရန်ရိုက်စက် | ၅၁၁၂ | |
| | - ဘိလပ်မြေ/ မဆလာ မျက်နှာပြင် ချောစက် | ၆၄၈ | |
| | - ကွန်ကရစ် ဖြတ်စက် | ၃၂၀ | |
| ၅။ | ရောင်းချမည့်နည်းစနစ် | | |
| | - ပြည်တွင်း | ၁၀ % | |
| | - ပြည်ပ | ၉၀ % | |
| ၆။ | ရောင်းဈေးနှုန်း(ပုံမှန်နှစ်) | တစ်ယူနစ် ပြည်ပရောင်းဈေး (US$) | တစ်ယူနစ်ပြည်တွင်းရောင်းဈေး (ကျပ်ထောင်ပေါင်း) |
| | - မြေသိပ်ရန်ရိုက်စက် | ၁၁၅ | ၁၄၄ |
| | - ဘိလပ်မြေ/ မဆလာ မျက်နှာပြင် ချောစက် | ၄၀၈ | ၄၄၄ |
| | - ကွန်ကရစ် ဖြတ်စက် | ၄၄၄ | ၄၈၀ |

| | | |
|---|---|---|
| ၇။ | ဝင်ငွေ(ပုံမှန်နှစ်) | |
| | - နိုင်ငံခြားငွေဖြင့် | US$ ၁.၀၅ သန်း |
| | - ကျပ်ငွေဖြင့် | ကျပ် ၁၃၉.၁၀ သန်း |
| ၈။ | အသားတင်အမြတ်(ပုံမှန်နှစ်) | US$ ၀.၃၅ သန်း |
| ၉။ | နိုင်ငံတော်မှပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ် | |
| | - ဝင်ငွေခွန် | US$ ၀.၀၆ သန်း |
| | - ကုန်သွယ်လုပ်ငန်းခွန် (ပြည်ပရောင်းရငွေအပေါ်၁၀%) | US$ ၀.၁၁ သန်း |
| | (ပြည်တွင်းရောင်းရငွေ အပေါ် ၁၀%) | ကျပ် ၁၃.၉၁ သန်း |
| ၁၀။ | လုပ်သားအင်အား(ပြည်တွင်း) | - ၁၀၀ ဦး |

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များအမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ကြယ်ညီနောင် စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co.,Ltd ) | ၁။ ဦးလင်းကြည် (အုပ်ချုပ်မှုဒါရိုက်တာ)<br>၂။ ဦးအောင်ကြည် (ဒါရိုက်တာ)<br>၃။ ဒေါ်ဥမ္မာသွင် (ဒါရိုက်တာ) | အမှတ်(၁၃၃)၊ (၄၆) လမ်း၊ ဗိုလ်တထောင်မြို့နယ်၊ရန်ကုန်မြို့။<br>အမှတ်(၁၃၃)၊ (၄၆) လမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။<br>အမှတ်(၁၉၉)၊ဗိုလ်မြတ်ထွန်းလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ |

၁။ ကုမ္ပဏီတယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၉၅၁- ၂၉၆၀၁၆၊ ၂၉၇၇၅၀ / ၉၅၁-၂၉၀၉၃၉

၂။ ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ - အမှတ်(၁၉၉)၊အခန်း(၃)၊ မြေညီထပ်၊ ဗိုလ်မြတ်ထွန်းလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။

၃။ ကုမ္ပဏီ၏ဆက်သွယ်ရမည့် ပုဂ္ဂိုလ် အမည်၊ ရာထူး - ဦးလင်းကြည် (အုပ်ချုပ်မှု ဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့် လုပ်ငန်းများ - ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်နေ့စွဲ - ၄၁၄/၂၀၀၈-၂၀၀၉ (ယာယီ) (၉-၇-၂၀၀၈)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့် နေ့စွဲ - (၂၀-၁ -၂၀၀၉)

၇။ ဘဏ်အမည် နှင့် ဘဏ်စာရင်းအမှတ် - သမဝါယမဘဏ်လီမိတက်-0132023674
မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်-91645

ကော်မရှင်၏ (၃၅/၂၀၀၈) အစည်းအဝေး

အကြောင်းအရာ။ ။ ကြယ်ညီနောင် စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co.,Ltd.) မှ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ပြည်ပသို့ တင်ပို့နိုင်မှုခိုင်လုံသော အထောက်အထားများနှင့် အတူ ပြန်လည် တင်ပြလာခြင်းကိစ္စ။

၁။ ကြယ်ညီနောင်စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co.,Ltd.) မှ မြေကွက်အမှတ် (၁၂၂)၊ ဆိပ်ကမ်းစက်မှုဇုန် (၂)၊ ဒဂုံမြို့သစ် (ဆိပ်ကမ်း) မြို့နယ်၊ ရန်ကုန်တိုင်းရှိမြေ (၂.၁၅၁)ဧကကို ငှားရမ်း၍ ဆောက်လုပ်ရေးလုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ် ခြင်းလုပ်ငန်းဆောင်ရွက်ခွင့် အဆိုပြုချက်အား (၂၇-၈-၂၀၀၈)နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏(၂၈/၂၀၀၈)အစည်းအဝေး၌တင်ပြခဲ့ရာ"ပြန်လည်စိစစ်ရန်"ဖြစ်ကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ အထက်ပါ ကုန်သွယ်မှုမူဝါဒကောင်စီအစည်းအဝေး ဆုံးဖြတ်ချက်အရ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေကို ပြန်လည် စိစစ်ခဲ့ပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၀၉)သန်း အပါအဝင် စုစုပေါင်း ကျပ် (၉၅.၅၅) သန်းဖြစ်ပါသည်။ လုပ်ငန်းအတွက် အသုံးပြုရန်လိုအပ်သော စက်ပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်း(၂)မျိုး (5.0 HP Engine နှင့် 13.5 HP Engine) တို့ကို စင်ကာပူနိုင်ငံရှိ Land & Marine Marketing Pte, Ltd. မှ ဝယ်ယူမည်ဖြစ်ပြီး ကျန်ကုန်ကြမ်းပစ္စည်းများကို ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ပါသည်။

၃။ အဆိုပြုလုပ်ငန်းမှ မြေသိပ်ရန် ရိုက်စက်၊ ဘိလပ်မြေမဆလာမျက်နှာပြင်ချောစက်နှင့် ကွန်ကရစ်ဖြတ်စက်တို့ကို ထုတ်လုပ်ပြီး ပြည်တွင်းတွင် (၁၀) ရာခိုင်နှုန်းနှင့် ပြည်ပသို့ (၉၀)ရာခိုင်နှုန်း တင်ပို့မည်ဖြစ်ပါသည်။ ပြည်ပသို့ တင်ပို့မည့်စျေးကွက်အထောက်အထားနှင့် စပ်လျဉ်း၍ မိတ်ဖက် ကုမ္ပဏီဖြစ်သော စင်ကာပူနိုင်ငံရှိ Land & Marine Marketing Pte. Ltd. နှင့် ချုပ်ဆိုထားသော Purchase Agreement Sale Contract နှင့် Undertaking တို့ကို တင်ပြထားပါသည်။

၄။ ကြယ်ညီနောင်စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co.,Ltd.) မှ အုပ်ချုပ်မှု ဒါရိုက်တာ ဦးလင်းကြည်သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ရရှိရန် ကော်မရှင် အဖွဲ့နှင့်လာရောက် တွေ့ဆုံ ရှင်းလင်းတင်ပြပြီး ကုန်သွယ်မှုမူဝါဒကောင်စီ ၏ (၂၈/၂၀၀၈) အစည်းအဝေး လမ်းညွှန်ချက်အရ စျေးကွက်ခိုင်မာကြောင်း Contract အထောက် အထား များကို စင်ကာပူနိုင်ငံတွင် နိုတြီ ပြုလုပ်တင်ပြလာပါသည်။ ကြယ်ညီနောင်ကုမ္ပဏီမှ ထုတ်လုပ်မည့် အပေါ့စား ယန္တရား ကုန်ချော များကိုနှစ်စဉ် တိုးမြှင့်ဝယ်ယူမည်ဖြစ်ကြောင်း buyer ၏ Understaking ကိုလည်း ထပ်မံတင်ပြ ထားပါသည်။ ထို့ပြင် မလေးရှားနိုင်ငံရှိ Conweld Machinery Sdn Bhd.

မှလည်း ကုန်ချော ပစ္စည်းများ ဝယ်ယူရန် ကမ်းလှမ်းလာသည့် အထောက်အထား ကိုလည်း တင်ပြထားပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မည့် ပစ္စည်းများ၏ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း တို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| စဥ် | အမျိုးအမည် | ထုတ်လုပ်မှု (ခုရေ) | တစ်ယူနစ်ရောင်းဈေးနှုန်း | |
|---|---|---|---|---|
| | | | ပြည်တွင်း (ကျပ်သိန်း) | ပြည်ပ (US$) |
| ၁။ | မြေသိပ်ရန်ရိုက်စက် | ၅၁၁၂ | ၁.၄၄ | ၁၁၅ |
| ၂။ | ဘိလပ်မြေ/မဆလာမျက်နှာပြင်ချောစက် | ၆၄၈ | ၄.၄၄ | ၄၀၈ |
| ၃။ | ကွန်ကရစ်ဖြတ်စက် | ၇၂၀ | ၄.၈၀ | ၄၄၄ |

၆။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာအောက်ပါအတိုင်း ဖြစ်ပါသည်။

(က) ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၀၆ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၀.၁၁ သန်း

ကျပ် ၁၃.၉၁ သန်း

၇။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းလုပ်သား (၁၀၀)ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းနှင့်စပ်လျဉ်း၍သက်ဆိုင်ရာဝန်ကြီးဌာနများသို့သဘောထားမှတ်ချက်တောင်း ခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားထားပါသည်။

- အမှတ်(၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ လျှပ်စစ်ဓါတ်အား လိုအပ်ချက်(၅၀၀) ကီလိုဝပ်ကို ဒဂုံဆိပ်ကမ်း (၃၃/၁၁) ကေဗွီ၊ ၁၀ အမ်ဗွီအေထရန်စဖော်မာမှ (၁၁)ကေဗွီ ဓါတ်အားလိုင်းဖြင့် ဓါတ်အား ဆက်သွယ်ပေးနိုင်ပါကြောင်း၊
- အမှတ်(၂) စက်မှုဝန်ကြီးဌာနမှ ကုန်ကြမ်း လိုအပ်ချက်နှင့် ကုန်ချော ထုတ်လုပ်မှု အချိုး အစားညီညွတ်မှုရှိကြောင်း၊ စက်ပစ္စည်းဈေးနှုန်းနှင့် ကုန်ချောဈေးနှုန်းများဆီလျော်မှု ရှိကြောင်းနှင့် နှစ်စဉ်ထုတ်လုပ်မှု နှင့် စက်အင်အား အချိုးအစား ညီမျှမှု ရှိကြောင်း၊

- ဆောက်လုပ်ရေးဝန်ကြီးဌာနမှ အဆိုပြု မြေကွက်ပေါ်တွင် စက်ရုံအဆောက်အဦ ဆောက်လုပ်ထားခြင်း မရှိကြောင်း၊ လုပ်ငန်းဆောင်ရွက်နေခြင်းမရှိကြောင်းနှင့် လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သင့်လျော်ပါကြောင်းပြန်ကြားထားပါသည်။

၉။ သို့ဖြစ်ပါ၍ ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၂၈/၂၀၀၈) အစည်းအဝေးလမ်းညွှန်ချက်အရ ကြယ်ညီနောင် စက်မှုထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (Twin Star Manufacturing Co., Ltd.) မှ ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက် ခွင့် အဆိုပြုချက်ကို ပြန်လည် စိစစ်တင်ပြလျှက်လမ်းညွှန်မှုကို ခံယူအပ်ပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

Fax -95-67-406333

ဖုံး-၀၆၇-၄၀၆၃၃၄၊၄၀၆၀၇၅

စာအမှတ်၊ ရက-၆(က) / မ-၉၈၀ / ၂၀၀၈ (၂၀၆၃-က)
ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ ဖေဖော်ဝါရီ လ ၅ ရက်၊

အကြောင်းအရာ။ ။ ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် မှ ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက် ။ ။ (၁)အမှတ်(၂) စက်မှု ဝန်ကြီးဌာန၏(၂၆-၇-၂၀၀၇) ရက်စွဲပါစာအမှတ်၊ ၇ - ၂၈၂(၁) ၂၀၀၇ (၇၆၂)

(၂)ဤကော်မရှင်၏(၈-၈-၂၀၀၇) ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၉၈၀/ ၂၀၀၇( ၄၃၈၃)

(၃)တွင်စတား ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ၏ (၁၇-၁၀-၂၀၀၇) ရက်စွဲပါ တင်ပြစာ။

(၄)ဤကော်မရှင်၏(၂-၁၁-၂၀၀၇) ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၉၈၀/ ၂၀၀၇( ၈၉၆၄-က)

(၅)အမှတ်(၂) စက်မှု ဝန်ကြီးဌာန၏(၂၈-၁-၂၀၀၈) ရက်စွဲပါစာအမှတ်၊ ၇ - ၂၈၂(၃) ၂၀၀၈ (၁၀၅)

၁။ ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် မှ ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စား ယန္တယားများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းနှင့် စပ်လျဉ်း၍ အမှတ်(၂) စက်မှု ဝန်ကြီးဌာနမှ ရည်ညွှန်းချက် (၁)ပါစာဖြင့် ပထမအကြိမ် သဘောထားပြန်ကြားချက် အရ လိုအပ်ချက်များအား ကုမ္ပဏီသို့ ရည်ညွှန်းချက်(၂)ပါစာဖြင့် မေးမြန်းခဲ့ရာ ရည်ညွှန်းချက်(၃)ပါ စာဖြင့် ကုမ္ပဏီမှ ရှင်းလင်းတင်ပြခဲ့ပါသည်။

၂။ အဆိုပါ တင်ပြစာအပေါ် အမှတ်(၂) စက်မှု ဝန်ကြီးဌာန ၏ သဘောထားမှတ်ချက် အား ပြန်ကြားပေးနိုင်ပါရန် ဤကော်မရှင်မှ ရည်ညွှန်းချက်(၄) ပါစာဖြင့် သဘောထားတောင်းခံခဲ့ရာ အောက် ပါအချက်အလက်များကို ထပ်မံပေးပို့ပါရန် အမှတ်(၂) စက်မှု ဝန်ကြီးဌာန မှ ရည်ညွှန်းချက်(၅) ပါစာဖြင့် ပြန်ကြားလာခဲ့ပါသည်။

(က) စက်ပစ္စည်းများဆိုင်ရာ အချက်အလက် (Specification )များ၊ ( pamphlet)များ

(ခ) ပြည်တွင်း/ပြည်ပမှ ဝယ်ယူ တပ်ဆင်မည့် ပစ္စည်းအစိတ်အပိုင်းများ၊ ကိုယ်တိုင် ထုတ်လုပ်မည့် ပစ္စည်းအစိတ်အပိုင်းများ စသည်ဖြင့် ခွဲခြားဖော်ပြပေးရန်၊

၃။ သို့ပါ၍ ကုမ္ပဏီမှ တာဝန်ရှိသူ အနေဖြင့် သက်ဆိုင်ရာ ဌာနနှင့် ဆက်သွယ်ပြီး ၎င်းဌာန ၏ အကြံပြုချက်နှင့် အညီ ပြင်ဆင်ထားသည့် အဆိုပြုချက်ကို တင်ပြပေးပါရန် အကြောင်းကြားပါသည်။

အမိန့်အရ-

(ပိုလ်မှူးကြီး သူရိန်ဇော်)
အတွင်းရေးမှူး

အုပ်ချုပ်မှု ဒါရိုက်တာ
ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် ။

မိတ္တူ-

(၁) ဝန်ကြီးရုံး၊ အမှတ်(၂) စက်မှု ဝန်ကြီးဌာန။

(၂)ညွှန်ကြားရေးမှူးချုပ်၊
မြန်မာ့စက်မှု လုပ်ငန်းများ စီမံကိန်း ညွှန်ကြားမှု ဦးစီးဌာန။

(၃)ရုံးလက်ခံ/မျှောစာတွဲ။

အထွေထွေ အရပ်ရပ် – ၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

အကြောင်းအရာ။ ။တွင်စတား ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်မှ ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြု တင်ပြ ခြင်းကိစ္စ။

၁။ တွင်စတား ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်း၊ ဒဂုံမြို့သစ် (ဆိပ်ကမ်း) မြို့နယ်၊ ဆိပ်ကမ်းစက်မှုဇုန်အပိုင်း(၂)၊မြေကွက်အမှတ်(၁၂၂)ရှိမြေ(၂.၁၅၁)ဧကကိုငှားရမ်း၍ ဆောက်လုပ်ရေးလုပ်ငန်းသုံးအပေါ့စား ယန္တရားများထုတ်လုပ်သည့်လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် (၂၀-၆-၂၀၀၇) ရက်စွဲပါ စာဖြင့် အဆိုပြုချက် တင်ပြခဲ့ပါသည်။ အလံ"၁"

၂။ ယင်းအဆိုပြုချက်နှင့် စပ်လျဉ်း၍ အမှတ်(၂)စက်မှု ဝန်ကြီးဌာန၊ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၊မြန်မာ့နိုင်ငံခြား ကုန်သွယ်မှု ဘဏ်တို့သို့ သဘောထားများနှင့် ကုမ္ပဏီသို့ လိုအပ်ချက်များအား (၁၀-၇-၂၀၀၇) ရက်စွဲပါစာနှင့် (၉-၇-၂၀၀၇) ရက်စွဲပါ စာများဖြင့် တောင်းခံခဲ့ပါသည်။ အလံ"၂"

၃။ အမှတ်(၂) စက်မှုဝန်ကြီးဌာနမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်။ အလံ"၃"

(က) တွင်စတားထုတ်လုပ်မှု ကုမ္ပဏီလီမိတက်တွင် သံရည်ကျိုအလုပ်ရုံ ပါဝင်ခြင်း မရှိ၍ ပြည်တွင်းမှ ဝယ်ယူသည့် ကုန်ကြမ်း စာရင်းတွင် Cast Iron အစား Casted Parts ဖြစ်သင့်ပြီး ဝယ်ယူမည့် အစိတ်အပိုင်း ဖော်ပြရန်၊

(ခ) Cast Iron တစ်တန်လျှင် ကျပ် (၃.၆)သိန်းအစား Casted Parts တစ်တန် လျှင် ကျပ်(၇)သိန်းနှုန်း ဖြစ်၍ ပြင်ဆင်ရန် လိုအပ်ခြင်း၊

(ဂ) အခြားလိုအပ်ချက်များကို အသေးစိတ် ဖော်ပြထားခြင်း မရှိခြင်း၊ ကုန်ချော၏ Parts List/ Drawing များမပါရှိခြင်း၊

(ဃ) Engine 5 H.P ၏ ဈေးနှုန်း 52 $သည် ဈေးနှုန်းနည်းပြီး လက်ရှိ ပေါက်ဈေးတွင် တရုတ်နိုင်ငံလုပ် ဒီဇယ်အင်ဂျင် 5 H.P သည် ဒေါ်လာ (၈၀)ခန့် ဖြစ်၍ ဈေးနှုန်း ညှိနှိုင်းသင့်ပါကြောင်း၊

(င) Export အဓိက ဆောင်ရွက်သည့် လုပ်ငန်းဖြစ်၍ Export Quality ရရှိရန် လိုအပ်သည့် Equipment & Tools များကို ထပ်မံဖြည့်တင်း အသုံးပြုရန် လိုအပ်ခြင်း၊

(စ) စက်ပစ္စည်းဈေးနှုန်းများနှင့် ကုန်ချော ဈေးနှုန်းများဆီလျော်မှုရှိ ပါကြောင်း၊

၄။ အမှတ်(၂) စက်မှုဝန်ကြီးဌာန၏ သဘောထားပြန်ကြားချက်အရ ကုမ္ပဏီသို့ (၈-၈-၂၀၀၇) ရက်စွဲပါစာဖြင့် ရှင်းလင်း တင်ပြပါရန်နှင့် အလုပ်သမား လုပ်ခ လစာနှုန်းပုံမှန်အလုပ်ချိန်တို့နှင့် စပ်လျဉ်း၍ (၃၀-၈-၂၀၀၇)ရက်စွဲပါစာများဖြင့် ကုမ္ပဏီသို့ အကြောင်းကြားခဲ့ပါသည်။ အလံ"၄" အလံ"၅"

၅။ ယခုအခါကုမ္ပဏီမှ (၁၇-၁၀-၂၀၀၇)ရက်စွဲပါစာဖြင့် လိုအပ်ချက်များအား စုစည်း၍ တင်ပြလာခြင်းဖြစ်ပါသည်။ကုမ္ပဏီမှ ရှင်းလင်းတင်ပြချက်အရ အမှတ်(၂) စက်မှုဝန်ကြီးဌာနသို့ သဘောထား ပြန်လည်တောင်းခံမည့် စာချော်တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။ အလံ"၆"

၂-၁၁-၂၀၀၇

အတွင်းရေးမှူး

၂/၁၁/၀၇

AD

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

Fax: 95-67-406333

တယ်လီဖုန်း-၀၆၇-၄၀၆၃၃၄။ ၄၀၆၀၇၅

စာအမှတ်၊ရက-၆(က)/မ-၉၈၀/၂၀၀၇(၈၆၆၄-က)။
ရက်စွဲ ၊ ၂၀၀၇ ခုနှစ်၊ နိုဝင်ဘာလ ၂ ရက်။

အကြောင်းအရာ။ ။တွင်စတားထုတ်လုပ်မှု ကုမ္ပဏီလီမိတက်မှ ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

ရည် ညွှန်းချက် ။ ။(၁)အမှတ်(၂)စက်မှုဝန်ကြီးဌာန၏(၂၆-၇-၂၀၀၇)ရက်စွဲပါစာအမှတ်၊၇-၂၈၂ (၁) ၂၀၀၇ (၇၆၂)။
(၂)ဤကော်မရှင်၏ (၈-၈-၂၀၀၇ )ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၉၈၀/ ၂၀၀၇(၄၃၈၃)
(၃)တွင်စတား ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်၏ (၁၇-၁၀-၂၀၀၇) ရက်စွဲပါ တင်ပြစာ။

၁။ တွင်စတားထုတ်လုပ်မှု ကုမ္ပဏီလီမိတက်မှ ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စား ယန္တရားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းနှင့် စပ်လျဉ်း၍ အမှတ်(၂)စက်မှုဝန်ကြီးဌာနမှ ရည်ညွှန်း(၁)ပါစာဖြင့် သဘောထားပြန်ကြားချက်ကို လက်ခံ ရ ရှိခဲ့ပါသည်။

၂။ ယင်းပြန်ကြားချက်အရ လိုအပ်ချက်များအား ကုမ္ပဏီသို့ ရည်ညွှန်း(၂)ပါစာဖြင့် မေးမြန်းခဲ့ရာ ယခုအခါကုမ္ပဏီမှ ရည်ညွှန်း(၃)ပါစာဖြင့် ပြန်လည်ရှင်းလင်း တင်ပြလာ ပါသည်။

၃။ အဆိုပါတင်ပြစာအပေါ် အမှတ်(၂)စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ပြန်ကြား ပေးနိုင်ပါရန် ကုမ္ပဏီမှ ရှင်းလင်းတင်ပြချက်အား ပူးတွဲပေးပို့လျှက် ညှိနှိုင်းမေတ္တာ ရပ်ခံအပ်ပါသည်။

အမိန့်အရ-

(ပိုလ်မှူးကြီးသူရိန်ဇော်)
အတွင်းရေးမှူး

ဝန်ကြီးရုံး၊
အမှတ်(၂)စက်မှုဝန်ကြီးဌာန။

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်
မြန်မာ့စက်မှုလုပ်ငန်းများ စီမံကိန်းညွှန်ကြားမှု ဦးစီးဌာန

(၂) တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်

(၃) ရုံးလက်ခံ။

(၄) မျှောစာတွဲ။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

Fax -95-67-406333

ဖုံး-၀၆၇-၄၀၆၃၃၄၊၄၀၆၀၇၅

စာအမှတ်၊ ရက-၆(က) /မ-၉၈၀/၂၀၀၇( ၄၃၈၃ )။
ရက်စွဲ၊၂၀၀၇ ခုနှစ်၊ ဩဂုတ် လ( ၈ ) ရက် ။

အကြောင်းအရာ။ ။ တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်တည်ထောင်၍ ဆောက်လုပ်ရေးလုပ်ငန်းသုံးအပေါ့စားယန္တရားများထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ ။

ရည်ညွှန်း ချက်။ ။ တွင်စတား ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်၏ ( ၂၁-၆-၂၀၀၇ ) ရက်စွဲပါ အဆိုပြုချက် ။

၁။ တွင်စတားထုတ်လုပ်မှု ကုမ္ပဏီလီမိတက် တည်ထောင်၍ ရန်ကုန်တိုင်း ၊ ဒဂုံမြို့သစ် (ဆိပ်ကမ်း)မြို့နယ် ၊ ဆိပ်ကမ်းစက်မှုဇုန်အပိုင်း(၂) ၊ မြေကွက်အမှတ်(၁၂၂) ရှိမြေ(၂.၁၅၁) ဧကကို ငှားရမ်း၍ ဆောက်လုပ်ရေးလုပ်ငန်းသုံးအပေါ့စားယန္တရားများထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်တင်ပြခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအချက်များကို ပြန်လည်စိစစ်၍ ရှင်းလင်းတင်ပြပေးပါရန် အကြောင်းကြားပါသည်။

(က) တွင်စတားထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်တွင် သံရည်ကျို အလုပ်ရုံပါဝင်ခြင်း မရှိ၍ ပြည်တွင်း မှ ဝယ်ယူသည့် ကုန်ကြမ်း စာရင်းတွင် Cast Iron အစား Casted Parts ဖြစ်သင့်ပြီးဝယ်ယူမည့် အစိတ်အပိုင်း ဖော်ပြရန်၊

(ခ) Cast Iron တစ်တန်လျှင် ကျပ်(၃.၆)သိန်း အစား Casted Parts တစ်တန်လျှင် ကျပ်(၇)သိန်းနှုန်းဖြစ်၍ ပြင်ဆင်ရန် လိုအပ်ခြင်း၊

(ဂ) အခြားလိုအပ်ချက်များကိုအသေးစိတ်ဖော်ပြထားခြင်းမရှိခြင်း၊ ကုန်ချော၏ Parts List / Drawing များမပါရှိခြင်း၊

(ဃ) Engine 5 H.P ၏ စျေးနှုန်း 52 $ သည်စျေးနှုန်းနည်းပြီးလက်ရှိပေါက်စျေးတွင် တရုတ်နိုင်ငံလုပ် ဒီဇယ်အင်ဂျင် 5 H.P သည် ဒေါ်လာ(၈၀)ခန့် ဖြစ်၍ စျေးနှုန်းညှိနှိုင်းသင့်ပါကြောင်း၊

(ဂ) Export အဓိကဆောင်ရွက်သည့်လုပ်ငန်းဖြစ်၍ Export Quality ရရှိရန် လိုအပ်သည့် Equipment & Tools များကို ထပ်မံဖြည့်တင်း အသုံးပြုရန် လိုအပ်ခြင်း၊

အမိန့်အရ -

(မြသူဇာ)
ညွှန်ကြားရေးမှူး(ကိုယ်စား)

အုပ်ချုပ်မှုဒါရိုက်တာ
တွင်စတားထုတ်လုပ်မှုကုမ္ပဏီလီမိတက်

မိတ္တူ-
- ရုံးလက်ခံ ။
- မျှောစာတွဲ ။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

Fax -95-67-406333 ဖုံး-၀၆၇-၄၀၆၃၃၄၊၄၀၆၀၇၅

စာအမှတ်၊ ရက-၆(က) / မ-၉၈၀ / ၂၀၀၈ ( ၉၀၄ )
ရက်စွဲ၊ ၂၀၀၈ ခုနှစ်၊ ဇန်နဝါရီ လ ၁၅ ရက်၊

အကြောင်းအရာ။ ။ ကုမ္ပဏီ အမည် ပြောင်းလဲတင်ပြလာခြင်း ကိစ္စ။

ရည်ညွှန်းချက် ။ ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၀-၇-၂၀၀၇) ရက်စွဲပါစာအမှတ်၊ ရက- ၆(က) / မ-၉၈၀ / ၂၀၀၇( ၃၃၅၄)

(၂) ဆောက်လုပ်ရေးဝန်ကြီးဌာန၏ (၂၀-၁၂-၂၀၀၇) ရက်စွဲပါစာအမှတ်၊ ၅၀/ ခွဲ-၃/ ၂၀၀၇ (စီ ၆၉၁၃)

(၃) ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Twin Star Manufacturing Co., Ltd.) ၏ (၃၁-၁၂-၂၀၀၇) ရက်စွဲပါ တင်ပြစာ။

၁။ တွင်စတား ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Twin Star Production Co., Ltd.) တည်ထောင်ကာ ရန်ကုန်တိုင်း ၊ ဒဂုံမြို့သစ် (ဆိပ်ကမ်း)မြို့နယ်၊ ဆိပ်ကမ်း စက်မှုဇုန်အပိုင်း(၂)၊ မြေကွက်အမှတ် (၁၂၂) တွင် ဆောက်လုပ်ရေး လုပ်ငန်းသုံး အပေါ့စား ယန္တယားများ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်နှင့် စပ်လျဉ်း၍ ရည်ညွှန်းချက် (၁)ပါစာဖြင့် ဤကော်မရှင်မှ သဘောထား တောင်းခံခဲ့ခြင်းအပေါ် ရည်ညွှန်းချက် (၂)ပါစာဖြင့် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ သဘောထားပြန်ကြားချက်ကို လက်ခံရရှိခဲ့ပါ သည်။

၂။ တွင်စတား ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Twin Star Production Co., Ltd.) အမည်ဖြင့် ကုမ္ပဏီမှတ်ပုံတင် လျှောက်ထားသောအခါ ကုမ္ပဏီမှတ်ပုံတင်ရုံး၏ ညွှန်ကြားချက်အရ ကြယ်ညီနောင် စက်မှု ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Twin Star Manufacturing Co., Ltd.) အမည်ဖြင့် ပြောင်းလဲ သတ်မှတ်ပေးပါရန် အဆိုပြုကုမ္ပဏီမှ ရည်ညွှန်းချက်(၃)ပါစာဖြင့် တင်ပြလာပါသည်။

